# مِائَةُ حَدِيثٍ

## من السنن والآداب للحفظ والعمل

ကျက်မှတ်လိုက်နာရန် စွန္နသ်တော်များ၊ အစ္စလာမ့်ကျင့်ဝတ်များနှင့်
စပ်လျဉ်းသည့်

# ဟာဒီးဆ်တော်ပေါင်း (၁၀၀)


**ကြီးကြပ်သူများ**

မွတ်ဖ်သီ အာဗ္ဗဒွ်ရ်ရဟီးမ် (မဇွာဟောရီ၊ ကာဇေမီ၊ နဒ်ဝီ)
မွတ်ဖ်သီ မုဟာမဒ် အိုဇာမာဟ် (မဇွာဟောရီ၊ နဒ်ဝီ)
မွတ်ဖ်သီ မုဟာမဒ် ဖွာရူးက် (နဒ်ဝီ)

**စုဆောင်းတင်ပြသူ**

မိုဟမ္မဒ် အရှ်ရဖ်ဟိုစိုင်းန် (နဒ်ဝီ)

﴿ قُلۡ إِن كُنتُمۡ تُحِبُّونَ ٱللَّهَ فَٱتَّبِعُونِي يُحۡبِبۡكُمُ ٱللَّهُ وَيَغۡفِرۡ لَكُمۡ ذُنُوبَكُمۡۚ وَٱللَّهُ غَفُورٞ رَّحِيمٞ ﴾

(အို နဗီတမန်တော်) အသင်သည် (လူသားတို့အား၍သို့) ပြောကြားပါလေ။ အကယ်၍ အသင်တို့သည် အလ္လာဟ်အရှင်မြတ်အား ချစ်ကြည်မြတ်နိုးကြပါမူ ငါ၏အမိန့်တော်များကို အစဉ်တစိုက် လိုက်နာကြကုန်။ (သို့မှသာ) အသင်တို့အား အလ္လာဟ်အရှင်မြတ်သည်ချစ်ကြည်မြတ်နိုးတော်မူမည်။ ထို့အပြင် အလ္လာဟ်အရှင် မြတ်သည် အသင်တို့၏ ပြစ်မှုဒုစရိုက်များကိုလည်းလွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူမည်။ မုချဧကန် အလ္လာဟ်အရှင်မြတ်သည် အကြိမ်ကြိမ်လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူသောအရှင်၊ အစဉ်သနားညှာတာတော်မူသော မဟာကရုဏာတော်ရှင် ဖြစ်တော်မူပေသည်။ (စူရဟ် ၃၊ အာယသ် ၃၁)



# အမှာစာ

إن الحمد لله نحمده، ونستعينه، ونستغفره ، ونعوذ بالله من شرور أنفسنا ، ومن سيئات أعمالنا ، من يهده الله فلا مضل له ، ومن يضلله فلا هادي له ، وأشهد أن لا إله إلا الله وحده لاشريك له ونشهد أن سيدنا محمدا عبده ورسوله، صلى الله عليه وعلى آله وصحبه وسلم تسليما كثيرا.

မွစ်လင်မ်တစ်ဦး၏ ဘဝရှင်သန်နေထိုင်ရေးတွင် အရေးပေးဆောင်ရွက်ရမည့်အချက်မှာ တမန်တော်မြတ် ﷺ ၏စွန္နသ်တော်များကို ဖဝါး ခြေထပ် လိုက်နာကျင့်သုံးခြင်း ဖြစ်ပေသည်။တမန်တော်မြတ် ﷺ ၏စွန္နသ်တော်များကို လျစ်လျူရှုထား၍ ဘဝရှင်သန်နေခြင်းသည် အမှောင်လမ်း၌ သေဆုံးနေခြင်းဟု သတ်မှတ်ရပေမည်။

တမန်တော်မြတ် ﷺကိုယ်တော်တိုင် သွန်သင်ဆုံးမရင်း လက်တွေ့ကျင့်သုံး ပုံဖော်ပြသသွားသည့် မြောက်မြားစွာသော စာရိတ္တမွန် များအနက် နေ့စဉ်လုပ်ဆောင်ချက်များနှင့် တောင်းဆုတော်များကို ဤစာအုပ်တွင် အကျဉ်းသဘော ကောက်နုတ်တင်ပြထားပါသည်။

ဤစာအုပ်ကို . . . . . . . .

ဂျာမေ့အာသွလ်ကောင်ဆရ်အစ္စလာမီယာ (မြစ်ငယ်ကျောင်း) တာဝန်ခံ ဆရာကြီးများ၏ လမ်းညွှန်ချက်အရ ကျောင်းတွင် ပြဋ္ဌာန်းထား သော ဟာဒီးဆ်ပညာရပ်ဆိုင်ရာသင်ရိုးတွင် အခြေခံသင်ရိုးစာအုပ်အဖြစ် သင်ကြားရန်ရေး အတွက် အောက်ပါအချက်များကို ထောက်ထား၍ စုစည်း တင်ပြခြင်းဖြစ်ပါသည်။

၁။ ကျောင်းသားများသည် အခြေခံအားဖြင့် ဟဒီးဆ်တော်များကိုကျက်မှတ်၍ တစ်ရက်တာ(၂၄)နာရီအား စွန္နသ်တော်နှင့်အညီအတွင်းအပြင် သရုပ်ဖော်နေထိုင်သွားနိုင်ရန်။

၂။ ဟဒီးဆ်တော်များ ကျက်မှတ်ခြင်းအားဖြင့် အရဗီစာပေနားလည်မှုတွင် အထောက်အကူဖြစ်စေရန်။

ထို့ကြောင့် ဤစာအုပ်အား သင်ကြားပေးရာတွင် အောက်တွင်ဖော်ပြမည့်အချက်များကို ဂရုတစိုက်အလေးထား၍ ဆောင်ရွက်ပေးပါရန် သင်ကြားမည့် ဆရာသခင်အား မေတ္တာရပ်ခံအပ်ပါသည်။

ဆရာသခင်သည့်. . . . . . . .

စာသင်ခန်းသို့ မသွားမီ နဖ်လ် နမားဇ် (၂) ရကအသ်ဖတ်၍ အလ္လာဟ့်ထံ "အိုအလ္လာဟ် ဤစာအုပ်၏ သင်ပေးသင်ယူမှုအား ကျွန်တော်မျိုး တို့အတွက် ဟေဒါယသ်၏ အကြောင်းခံဖြစ်စေတော်မူပါ။" ဟု တောင်းဆိုပါ။

(၁) ဟဒီးဆ်တော်များအာဂုံဆောင်ကျက်မှတ်ခြင်း၏ အကျိုးကျေးဇူး များကို တင်ပြပေးပါ။

(၂)ကျောင်းသားတိုင်းသည် ဟဒီးဆ်တော်များကို တိကျပီသစွာ ဖတ်နိုင်ရန် အလို့ငှာ ဟဒီးစ်တစ်ပုဒ်တိုင်းကို ဆရာကိုယ်တိုင် ရှင်းရှင်းလင်းလင်း၊ ဖြေးဖြေးမှန်မှန် အရဗီအသံနေအသံထားဖြင့် အနည်းဆုံး(၃)ကြိမ်တိုင်ပေး၍ ကျောင်းသားများအား လိုက်ဖတ်ခိုင်းပါ။

(၃) ဟဒီးဆ်တော်များအား သင်ကြားပေးရာတွင်ဤအချက်များကို ဂရုပြု၍ သင်ကြားပေးပါ။

(က) စကားလုံးများ၏လုံးကောက်အဓိပ္ပါယ်များကိုဖော်ပြပေးခြင်း။

(ခ) စကားလုံးများ၏ဆင့်ပွားပြောင်းလဲပုံများကိုရုံဖန်ရုံခါထည့်သွင်း သင်ကြားပေးခြင်း။

(ဂ) စကားလုံးများရှိ သရများ၏အခြေအနေများကိုလည်း မကြာခဏ

(ဂ) စကားလုံးများရှိ သရများ၏အခြေအနေများကိုလည်း မကြာခဏ မေးမြန်းသင်ကြားပေးခြင်း။

(ဃ)ဘာသာပြန်ဆိုရာတွင် အရဗီစာသားများကို မြန်မာစာသားများဖြင့် ယှဉ်ပြ၍ ဘာသာပြန်ဆိုပေးခြင်း။

(၄)စာအုပ်ပါ ဟဒီးဆ်တော်များနှင့်ခက်ဆစ်များကို အဓိပ္ပါယ်နှင့်တကွ ကျောင်းသားများအား ဗလာစာအုပ်တွင်ပြန်လည်ရေးသားစေပြီးအလွတ် ကျက်မှတ်ခိုင်းပါ။

(၅)ဗလာစာအုပ်တွင် ဟဒီးဆ်တော်များ ရေးသားပြီးသောအခါ ကျောင်းသားများ၏ အရဗီစာပေရေးသားမှု မှန်ကန်စေရန်အတွက် ဆရာသခင်မှ စာအုပ်များကိုစစ်ဆေး၍ ပြုပြင်ပေးပါ။

(၆)သင်ပြီးသောဟဒီးဆ်တော်များကို ဒုတိယရက်တွင်ကျောင်းသားများအား စစ်ဆေးမေးမြန်းပေးပါ။

(၇)ဟဒီးဆ်တစ်ပုဒ်ကြေညက်မှုမရှိသေးဘဲရှေ့ဟဒီးဆ်ကိုလုံးဝအစမပြုပါနှင့်။

(၈)စာအုပ်တွင်ခက်ဆစ် အဓိပ္ပါယ်များဖော်ပြထားသော်လည်း ကျောင်းသားများကိုယ်တိုင် ခက်ဆစ်ထုတ်ရေးသားလာနိုင်ရန် ဆရာသခင်မှ قاموس (အဘိဓါန်) ကြည့်သည့် အလေ့အကျင့်ပြုလုပ်ပေးပါ။

(၉) သင်ပေးလိုက်သော ဟဒီးဆ်တော်များအား ကျောင်းသားများ ကျင့်သုံးလာစေရန် ဆရာသခင်မှ ဆော်သြပေးပါရန် နှင့် ရံဖန်ရံခါ ကျင့်သုံးသည် မကျင့်သုံးသည်ကိုလည်း မေးမြန်းပေးစေလိုပါသည်။

စုဆောင်းတင်ပြသူသည် အထက်ပါ ရည်ရွယ်ချက်များကို အကောင်ထည် ဖော်ဆောင်နိုင်ရန်အတွက် အကောင်းဆုံးဖြစ်အောင် ကြိုးစားအားထုတ်ခဲ့ပါသည်။ သို့သော်လည်း လူသားဖြစ်နေအလျောက် အားနည်းမှု၊ ချွတ်ချော်မှု၊ မေ့လျော့မှုနှင့် မှားယွင်းမှုများ နည်းများမဆိုပါဝင်နေပါမည်။ ထိုကဲ့သို့ မေ့မှား ချွတ်ချော်မှုများ တွေ့ရှိပါက အပြုသဘောဆောင်သောအားဖြင့် ပြုပြင် ပေးပါရန်

မေတ္တာ ရပ်ခံအပ်ပါသည်။

ထို့အတူ ဤစာအုပ်ဖြစ်ပေါ်လာစေရန် လမ်းညွှန်ပေးခဲ့သော ဆရာသခင်ကြီးများအားလည်းကောင်း၊ အဖက်ဖက်မှကူညီပေးခဲ့သော ဆရာသခင်များအား လည်းကောင်း ဂုဏ်ပြုမှတ်တမ်းတင်လျက်. . . . . .

ونسأل الله تعالى أن ينفع به طلبة علوم الحديث خاصة والمسلمين عامة وجعله ذخرا لمُعدِّ هذا الكتاب ولوالديه ولأساتذته، وعملا صالحا لمن سعي فيه ، والحمدلله أولا وآخراً وظاهرا وباطناً وصلى الله على خير خلقه سيدنا محمد وآله وصحبه أحميعن.

يوم الإثنين
١/من ذي القعدة ١٤٣٦ ه
١٧/ أغطس ٢٠١٥ م

وكتبه :
محمد أشرف حسين الندوي

## မာတိကာ

## ဟဒီးဆ် သင်ပေးသင်ယူသူများ လိုက်နာရမည့် ကျင့်ဝတ်များ

၁။ ဟဒီးစ် သင်ပေးသင်ယူသူများသည် နီယသ်မှန်ကန်စွာထား၍ အလ္လာဟ်အရှင်မြတ်အတွက်သာ သင်ပေးသင်ယူမှုပြုရမည်။

၂။ ဟဒီးစ်တော်များအားပီပီသသဂရုတစိုက်ဖတ်ရွတ်ရမည်။ ဖတ်ရွတ်နေချိန်တွင် အာရုံထား၍စိတ်ပါဝင်စားစွာဖြင့် နားထောင် ရမည်။

၃။ကိုယ်ခန္ဓာသန့်ရှင်းသပ်ရပ်စွာဖြင့် သင်ပေးသင်ယူမှုပြုရမည်။

၄။ မိမိသင်ယူထားပြီးသော ဟဒီးစ်တော်များကို အတတ်နိုင်ဆုံး အမလ်လုပ်ရမည်။ သို့မှသာ ဟဒီးဆ်တော်မြတ်၏ နူးရ်ရောင်ခြည်တော်များ ရရှိခံစားရမည် ဖြစ်သည်။

## ثحديث ပညာရပ်ဆိုင်ရာအခြေခံသုတ (၁၀) ပါး

### الحَدُّ (ဖွင့်ဆိုချက်)

لُغَةً အရဗီစာပေ၌ حديث ၏အဓိပ္ပါယ်မှာ. .

(၁) သစ်လွင်သောအရာ (၂) သတင်းအချက်အလက်

(၃) စကားရပ် ဟူ၍ဖြစ်ပါသည်။

اصْطِلاحًا ပညာရပ်ဆိုင်ရာ ဝေါဟာရအရ. . .

တမန်တော်မြတ် ﷺ ၏ အမိန့်တော်များ၊ လုပ်ဆောင်ချက်များနှင့် အတည်ပြု ထောက်ခံချက်များကို ခေါ် ဆိုသည်။

### اَلْمَوْضُوْعُ (အခြေခံအဓိကထားလေ့လာရမည့်အချက်)

حديث ပညာရပ်တွင် အခြေခံအဓိထားလေ့လာမည့်အချက်မှာ. . တမန်တော်မြတ် ﷺ ၏ အမိန့်တော်များ၊ လုပ်ဆောင်ချက်များ နှင့်အတည်ပြု ထောက်ခံချက်များ ဖြစ်သည်။

## الثَّمَرَةُ (အကျိုးရလဒ်)

ﺣﺪﻳﺚ ပညာရပ်ကိုသင်ယူကျက်မှတ်ခြင်းဖြင့် ရရှိလာမည့်အကျိုးရလဒ် များမှာ. . . .

(၁) အလ္လာဟ်အရှင်မြတ်သည် သင်ယူကျက်မှတ်သူ၏ မျက်နှာတော်ကို လင်းဝင်းစေတော်မူမည်။

(၂)ဟဒီးဆစ်တော်များကိုသင်ယူထားခြင်းဖြင့် ကျမ်းတော်မြတ်ကုရ်အာန်ကို နားလည်သဘောပေါက်ရာတွင် လွယ်ကူမှုရရှိမည်။

(၃) ဟဒီးဆ်ဖတ်သူများသည် တမန်တော်မြတ်ﷺအပေါ် ဒရူးဒ်အများဆုံး ပို့သခွင့်ရရှိသည့်အတွက် ကေယာမသ်နေ့တွင် တမန်တော်မြတ်ﷺနှင့် နီးကပ်စွာ နေခွင့်ရရှိမည်။

(၄) တမန်တော်မြတ် ﷺ ၏အမိန့်တော်များကိုဖဝါးခြေထပ်လိုက်နာရန် အတွက် လွယ်ကူမှုရရှိမည်။

## الفَضْلُ (ထွန်းမြတ်မှု)

ﺣﺪﻳﺚတော်များသည်တမန်တော်မြတ် ﷺနှင့် တိုက်ရိုက်ပတ်သက် ဆက်နွယ် နေသောကြောင့် ကျမ်းတော်မြတ်ကုရ်အာန်နောက်တွင် အမွန်မြတ်ဆုံး ဖြစ်သည်။

## النِّسْبَةَ (ပတ်သက်ဆက်နွယ်မှု)

ﺣﺪﻳﺚတော်များသည် တမန်တော်မြတ်ﷺ၏မိန့်ကြား ချက်များ၊လုပ်ဆောင် ချက်များနှင့် အတည်ပြုထောက်ခံမှုများဖြင့် တိုက်ရိုက်ပတ်သက် ဆက်နွယ် နေသည်။

## الوَاضِعُ (المُدَوِّنُ) စတင်စုစည်းခဲ့သူ

ဟာဇရသ်အိုမရ်ဗင်အဗ်ဒွလ်အဇီးဇ်၏ အမိန့်တော်ဖြင့်အေမာမ် အိဗ်နေ့ ရှေဟားဗ်(ဇိုဟ်ရီ) နှင့် အေမာမ်အဗူဘက္ကရ်အိဗ်နေ့ဟဇ်မ်တို့က စတင်စုစည်းခဲ့သည်။

## الاسْمُ (အမည်နာမ)

ဤပညာရပ်၏ အမည်နာမမှာ عِلْمُ الحَدِيْثِ ဖြစ်ပါသည်။

## اَلْاِسْتِمْدَادُ (မှီငြမ်းကိုးကားချက်)

ဆွဟာဗာဟ် သာဝကကြီးများ သာဝေ့အီသခင်ကြီးများနှင့် ၎င်းတို့နောက်တွင်လာရှိခဲ့သော အေမာမ်ကြီးများ၏ခိုင်လုံတိကျသည့် ဆင့်ပြန်ချက်များဖြင့် လာရှိသော တမန်တော်မြတ် ﷺ ၏မိန့်ကြားချက်များ၊ လုပ်ဆောင်ချက်များနှင့် အတည်ပြု ထောက်ခံချက်များကို မှီငြမ်းကိုးကားသည်။

## حُكْمُ الشَّارِعِ (တရားတော်လာအမိန့်)

မည်သည့်အရပ်ဒေသတွင်မဆို ဟာဒီးဆ်ပညာရပ်ကို သင်ယူဆည်းပူးနိုင်မည့်သူ တစ်ဦးတည်းရှိပါကထိုသူအတွက် သင်ယူဆည်းပူးခြင်းသည် فَـــرْضُ عَيْــــــــــنٍ မသင်မနေရ တာဝန်ဖြစ်သည်။ထိုဒေသ၌ သင်ယူဆည်းပူးနိုင်သူအများအပြားရှိ နေပါက فَـــــرْضُ كِــــفَـــــايَةٍ အချို့သောသူများ သင်ယူဆည်းပူးလိုက်ခြင်းဖြင့် တာဝန်ကျေသွားပေမည်။

## المَسَائِلُ (အခြေခံဥပဒေများ)

ဟာဒီးစ်တော်များတွင် အသေးစိတ်နည်းဥပဒေများကို ထုတ်နုတ်နိုင်သည့် အခြေခံဥပဒေများလည်းရှိသည်။

# ဟဒီးဆ်ကျမ်းကြီး (၆)ကျမ်းနှင့် ကျမ်းရှင်ကြီးများ

## ၁။ အေမာမ် ဗို့ခါရီ (محمد بن إسماعيل البخاري)

| | | |
|---|---|---|
| အမည်နှင့် မျိုးစဉ်ဆက် | - | مُحمدُ بنُ إسماعيلَ بنِ إبراهيمَ الْجُعْفِيْ |
| ဘွဲ့သညာ | - | أبوعبد الله |
| ဘွဲ့ထူး | - | أميرُ المؤمنينَ في الحديثِ |
| မွေးရပ်ဒေသ | - | ဥဇဘက်ကစ္စတန်နိုင်ငံ၊ဗိုခါရာမြို့ |
| မွေးသက္ကရာဇ် | - | ရှောင်ဝလ်လ (၁၃)ရက်၊ဟစ်ဂျ်ရီ (၁၉၄) ခုနှစ်၊သောကြာနေ့ |
| ကွယ်လွန်ချိန် | - | သက်တော်(၆၂)၊ဟစ်ဂျ်ရီ(၂၅၆)ခု၊ အီဒွလ်ဖစ်သ်ရ်ည |

အေမာမ်ဗိုခါရီသခင်ကြီးသည် မွေးရာပါမျက်မမြင်တစ်ဦးဖြစ်ခဲ့ပြီးမိခင်၏ဒိုအာကြောင့် အရှင်မြတ်သည် စက္ခုအလင်းပြန်လည် ချီးမြှင့်ပေးခဲ့သည်။ သက်တော်(၁၁)နှစ်အရွယ်တွင် ဟဒီးဆ်တော်များကို စတင်ကျက်မှတ်ခဲ့သည်။ ဟစ်ဂျ်ရီ (၂၁၀)ခုနှစ်တွင် ပထမဆုံး ဟဂျ်ပြု လုပ်ခဲ့သည်။

သခင်ကြီးသည် သာသနာ့ပညာရှာဖွေရာတွင် တစိုက်မတ်မတ် ကြိုးစားခဲ့သည်။ အလ္လာဟ်အရှင်မြတ်သည်လည်း သခင်ကြီးကို သူမတူသော မှတ်သားဉာဏ်နှင့် ပညာဂုဏ်ကိုချီးမြှင့်တော်မူခဲ့သည်။

သခင်ကြီးသည် ဆရာပေါင်း(၁၀၈၀)ထံမှ ပညာသင်ယူခဲ့သည်။ အေမာမ်မွတ်စ်လင်မ်၊ အေမာမ်သိရ်မေ့ဇီတို့ကဲ့သို့သော တပည့်ကျော်များနှင့် အခြားသော တပည့်ကျော်(၁)သိန်းခန့်ကို မွေးထုတ်ပေးခဲ့သည်။ ကမ္ဘာကျော် ကျမ်းပေါင်း(၂၀) ကျော်ကိုလည်းပြုစုခဲ့သည်။

# ဗိုခါရီကျမ်း (صَحِيْحُ الْبُخَارِيْ)

အမည်အပြည့်အစုံ

اَلْجَامِعُ الْمُسْنَدُ الصَّحِيْحُ اَلْمُخْتَصَرُ مِنْ أُمُوْرِ رَسُوْلِ اللّٰهِ ﷺ وسُنَنِهِ وَأَيَّامِهِ

| | | |
|---|---|---|
| ဟဒီးဆ်တော်ပေါင်း | - | ၇၃၉၈ |
| ကဏ္ဍပေါင်း | - | ၇၉ |
| အခန်းပေါင်း | - | ၃၄၅၀ |

အေမာမ်ဗိုခါရီသခင်ကြီးသည် ဤကျမ်းကိုပြုစုရာတွင်(၁၆)နှစ်တာကြာခဲ့ပြီး၊ မိမိကျက်မှတ်ထားသော ဟဒီးဆ်ပေါင်း(၆)သိန်းကျော်မှ ဆရာ(၂၈၉)ပါး၏ ဟဒီးဆ်တော်များကိုသာ ကောက်နှုတ်ပြုစုခဲ့သည်။ ကျမ်းမြတ်ကုရ်အာန်ပြီးနောက်တွင် ဤကျမ်းသည် အမှန်ကန်ဆုံးနှင့်မင်္ဂလာအရှိဆုံး ကျမ်းတစ်ဆူအဖြစ် ကမ္ဘာကလက်ခံခဲ့သည်။

သခင်သည်ဤကျမ်းကို မတ်စ်ဂျေ့ဒ်ဟရမ်ထဲတွင်ပြုစုခဲ့သည်။ဟဒီးဆ်တစ်ပုဒ်ကိုမဖော်ပြမီရေးချိုးသည်။ အိစ်သေ့ခါရာနမား၇် နှစ်ရကအသ်ဝတ်ပြုပြီးမှသာ ထိုဟဒီးဆ်ကို မိမိကျမ်းတွင် ရေးသားဖော်ပြခဲ့သည်။

ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏သဖ်စီးရ်၊သမိုင်း၊စိတ်ဓါတ်ပြုပြင်ရေး၊ရိုသေသမှု၊ကိုယ်တော်မြတ်ﷺ၏အတ္ထုပ္ပတ္တိ၊ ဆွဟာဗာ သာဝကကြီးများ၏ထွန်းမြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့်သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ပညာရှင်(၇)သောင်းကျော်က သခင့်ထံမှ ဤကျမ်းကို တိုက်ရိုက်သင်ယူခဲ့ကြသည်။ ဤကျမ်း၏အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြုကျမ်းများမှာယနေ့ထိ(၇၀၈)မျိုးထိရှိနေပြီးဖြစ်သည်။ဤကျမ်းတွင် ثُلَاثِيَّات(ကိုယ်တော်နှင့်ကျမ်းရှင်ကြားတွင်ဆင့်ပြန်သူ(၃)ဦးသာရှိသည့်ဟဒီးဆ်(၂၂)ပုဒ်ပါဝင်သည်။

☆ سير أعلام النبلاء　☆ تهذيب الكمال للمزي　☆ هدي الساري　☆ مقدمة فتح الباري
☆ السنة ومكانتها في التشريع الإسلامي　☆ حديث اور فہم حديث　☆ صحاح ستہ اور انکے مصنفين

## ၂။ အေမာမ် မွတ်စ်လင်မ် (مُسْلِمُ بن الْحَجَّاجِ اَلْقُشَيْرِيُّ)

| | | |
|---|---|---|
| အမည်နှင့်မျိုးစဉ်ဆက် | - | مُسْلِمُ بن الْحَجَّاجِ اَلْقُشَيْرِيُّ النَّيْسَابُوْرِي |
| ဘွဲ့သညာ | - | أبو الحسين |
| မွေးရပ်ဒေသ | - | ခိုရာစားန်းပြည်နယ်၊နိုင်စာပူးရ်မြို့၊အီရန်နိုင်ငံ |
| မွေးသက္ကရာဇ် | - | ဟစ်ဂျ်ရီ (၂၀၆)ခုနှစ် |
| ကွယ်လွန်ချိန် | - | သက်တော်(၅၅)နှစ်၊ရဂျဗ်လ(၂၅)ရက်၊ ဟစ်ဂျ်ရီ(၂၆၁)ခု |

အေမာမ်မွတ်စ်လင်မ်ကြီးကျယ်သော ဟဒီးဆ်ပါရဂူတစ်ပါးဖြစ်သည်။ ဟစ်ဂျ်ရီ(၂၁၈)ခုနှစ်တွင် ဟဒီးဆ်ပညာရပ်ကို စတင်သင်ယူခဲ့သည်။ ဟစ်ဂျ်ရီ (၂၂၀)ခုနှစ်တွင်ပထမဆုံးဟဂ်ျ ပြုလုပ်ခဲ့သည်။

သခင်သည်အေမာမ်ဗုခါရီ၊အေမာမ်အဟ်မဒ်တို့အပြင်အခြားသော ကမ္ဘာ ကျော်ပညာရှင်ပေါင်း (၂၄၄)ပါးထံမှ ပညာသင်ယူခဲ့သည်။

အေမာမ်သိရ်မေ့ဇီနှင့်အခြားသော တပည့်ကျော် အမြောက်အများကို မွေးထုတ်ပေးခဲ့သည်။ မွတ်စ်လင်မ်ကျမ်းအပြင် ကမ္ဘာကျော်ကျမ်းပေါင်း(၂၃) ကျမ်းကျော်ကိုလည်း ပြုစုခဲ့သည်။ ဟဒီးဆ်တော်ပေါင်း(၃)သိန်းကျော်ကို ဆင့်ပြန်ထားသည့်စနဒ်အပြည့် အစုံဖြင့် ကျက်မှတ်ထားနိုင်ခဲ့သည်။

အေလင်မ်ပညာကို တစိုက်မတ်မတ်ရှာဖွေလေ့လာခဲ့သည်။ဟဒီးဆ် လေ့လာမှတ်သားနေချိန် မည်သူနှင့်မျှတွေ့ဆုံခြင်းမရှိပါ။

# မွတ်စ်လင်မ်ကျမ်း ( صَحِيْحُ مُسْلِمٍ)

အမည်အပြည့်အစုံ

اَلْمُسْنَدُ الصَّحِيْحُ اَلْمُخْتَصَرُ مِنَ السُّنَنِ بِنَقْلِ الْعَدْلِ عَنِ الْعَدْلِ عَنْ رَسُوْلِ اللّٰه ﷺ

ဟဒီးဆ်တော်ပေါင်း - ၇၂၇၅

ကဏ္ဍပေါင်း - ၅၄

အမာမ်မွတ်စ်လင်မ်သခင်ကြီးသည်ဤကျမ်းကိုပြုစုရာတွင်(၁၅)နှစ်တာကြာခဲ့ပြီး၊မိမိထံရှိဟဒီးဆ်ပေါင်း(၃)သိန်းကျော်မကောက်နှုတ်ပြုစုခဲ့သည်။ဗိုခါရီကျမ်းနောက်တွင်ဤကျမ်းသည်အမှန်ကန်ဆုံးနှင့်မင်္ဂလာရှိအဆုံးကျမ်းဖြစ်သည်။

အစီအစဉ်ကျနမှုတွင် ဤကျမ်းသည်ပြိုင်စံရှားဖြစ်ခဲ့သည်။ ထို့ကြောင့်ဟဒီးဆ်ကို လေ့လာရှာဖွေလိုသူများအတွက် အလွန်လွယ်ကူလှသည်။

ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏သဖ်စီးရ်၊ သမိုင်း၊စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ် ﷺ ၏အတ္ထုပ္ပတ္တိ၊ဆွ ဟာဗာသာဝကကြီးများ၏ထွန်းမြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့် အကြောင်းစုံတို့နှင့်သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ဟဒီးဆ်ပညာရှင်အမြောက်အများက သခင့်ထံမှ ဤကျမ်းကိုတိုက်ရိုက်သင်ယူခဲ့ကြသည်။ ဤကျမ်း၏အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြုကျမ်းများမှာ ယနေ့ထိ(၁၀၀)ကျော်ရှိနေပြီဖြစ်သည်။

---

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ مذكرات معلم في صحيح مسلم

☆ السنة ومكانتها في التشريع الإسلامي ☆ قرة عين المحتاج

☆ حدیث اور فہم حدیث ☆ صحاح ستہ اور انکے مصنفین

# ၃။ အေမာမ် အဗူဒါဝူးဒ် ( سُلَيْمَان بن أَشْعَثُ اَلسِّجِسْتَانِيُّ )

| | | |
|---|---|---|
| အမည်နှင့် မျိုးစဉ်ဆက် | - | سُلَيْمَانُ بنُ أَشْعَثْ بنِ إسحقَ اَلسِّجِسْتَانِيُّ السَّجَزِيُّ |
| ဘွဲ့သညာ | - | أبو داود |
| မွေးရပ်ဒေသ | - | အာဖဂန်နစ္စတန်နိုင်ငံ၊ ဆေ့ဂျစ္စသားန်ပြည်နယ် |
| မွေးခုနှစ် | - | ဟစ်ဂျ်ရီ (၂၀၂)ခုနှစ် |
| ကွယ်လွန်ချိန် | - | ဟစ်ဂျ်ရီ(၂၇၅)ခု၊ရှောင်ဝလ်လ(၁၆)ရက်၊ ဗဆွရဟ်မြို့တွင် |

အေမာမ်အဗူဒါဝူးဒ်သခင်ကြီးသည်ဟဒီးဆ်နှင့်ဖေကဟ်နှစ်ရပ်လုံးတွင်တစ်ဘက်ကမ်းခပ်ကျွမ်းကျင်သည့်အေမာမ်ကြီးတစ်ပါးဖြစ်သည်။ငယ်ရွယ်စဉ်ကပင်ဟဒီးဆ်ပညာရပ်ကိုစတင်သင်ယူခဲ့သည်။ဘဂ်ဒါးဒ်၊ကူဖာ၊ဟေဂျားဇ်၊အီဂျစ်၊ဆီးရီးယားစသည့်ပညာအလင်းခမြို့တော်များသို့သွားရောက်ဆည်းပူးခဲ့သည်။

သခင်သည် အေမာမ်ဗိုခါရီ၊ အေမာမ်အဟ်မဒ်တို့အပြင် အခြားသောကမ္ဘာကျော်ပညာရှင်ကြီး (၃၀၀)ကျော်ထံမှ ပညာသင်ယူခဲ့သည်။

အေမာမ်သိရ်မေ့ဇီ၊ အေမာမ်နစာအီနှင့်အခြားသော တပည့်ကျော်အမြောက် အများကိုမွေးထုတ်ပေးခဲ့သည်။ အဗူဒါဝူးဒ်ကျမ်းအပြင်ကမ္ဘာကျော်ကျမ်းပေါင်း(၁၅)ကျမ်းခန့်ကိုလည်း ပြုစုခဲ့သည်။ ဟဒီးဆ်တော်ပေါင်း(၅)သိန်းကျော်ကို ဆင့်ပြန်ထားသည့် စနဒ်အပြည့်အစုံဖြင့် ကျက်မှတ်ထားနိုင်ခဲ့သည်။

အေမာမ်ဟရ်ဗီ၏ အဆိုအရ"အလ္လာဟ်အရှင်မြတ်သည်ဟဇရသ်ဒါဝူးဒ် عليه السلام အတွက် သံကိုဖော့ဖယောင်းအဖြစ် ပြုပေးသည့်အတိုင်း အေမာမ်အဗူဒါဝူးဒ် အတွက် ဟဒီးဆ် ပညာရပ်များကို လွယ်ကူစေခဲ့သည်။"

# အဗူဒါဝူးဒ်ကျမ်း (سُنَنُ أَبِيْ دَاود)

အမည်အပြည့်အစုံ - كِتَابُ السُّنَنِ لِلإِمَامِ أَبِيْ دَاوُد
ဟဒီးဆ်တော်ပေါင်း - ၅၂၇၄
ကဏ္ဍပေါင်း - ၃၅
အခန်းပေါင်း - ၁၈၇၁

အေမာမ်အဗူဒါဝူးဒ် ‍ သခင်ကြီးသည်ဤကျမ်းကို မိမိထံရှိဟဒီးဆ်ပေါင်း (၅)သိန်းကျော်မှ နှစ်(၂၀)အတွင်း ကောက်နှုတ်ပြုစုခဲ့သည်။ဟဒီးဆ်တော်များမှ ဖေကဟ်ဆိုင်ရာပညတ်ချက်များကို ထုတ်နှုတ်တင်ပြရာတွင်ပထမဆုံးပြိုင်စံရှား စွယ်စုံကျမ်းတစ်ဆူဖြစ်သည်။

အစ္စလာမ့်ပညတ်များနှင့်အတူ အစ္စလာမ့်ရိုသေသမှုများကို ဦးစားပေး ဖော်ပြထားသည်။ အေမာမ်ကြီး(၄)ပါး၏အထောက်အထားများကို စနစ်တကျ ဖော်ပြထားသည်။ သခင်သည်ဤကျမ်းကိုငယ်ရွယ်စဉ်၌ပင် အပြီးသတ်ပြုစုခဲ့ပြီး မိမိ၏ဆရာအေမာမ်အဟ်မဒ်အားတင်ပြရာ ဆရာသည် အထူးနှစ်ထောင်း အားရခဲ့သည်။

ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ် ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွဋ်မြတ်မှု၊ ကေယာမသ်မတိုင်မီထိ ဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့်သက်ဆိုင်သည့် ဟဒီးဆ်တော်များ ပါဝင်သည်။

ဟဒီးဆ်ပညာရှင်အမြောက်အများကသခင့်ထံမှ ဤကျမ်းကိုတိုက်ရိုက်သင် ယူခဲ့ကြပြီးအလွတ်ပင်ကျက်မှတ်ခဲ့ကြသည်။ ဤကျမ်း၏အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊အခြေပြကျမ်းများမှာ ယနေ့ထိရာကျော်နေပြီဖြစ်သည်။

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ الدر المنضود ☆ السنة ومكانتها في التشريع الإسلامي
☆ حديث اور فہم حديث ☆ صحاح ستہ اور انکے مصنفين ☆ بذل المجهود في حل أبي داود

# ၄။ အေမာမ် နစာအီ (أحمد بن شعيب النسائي)

| | | |
|---|---|---|
| အမည်နှင့် မျိုးစဉ်ဆက် | - | أحمدُ بنُ شعيبِ بنِ عليِّ بنِ سِنَانِ بنِ بَحْرِ النَّسَائِيْ |
| ဘွဲ့သညာ | - | أبوعبدِ الرحمن |
| မွေးရပ်ဒေသ | - | ခိုရားစားန်ပြည်နယ်၊ နစာအ်မြို့၊အီရန်နိုင်ငံ |
| မွေးသက္ကရာဇ် | - | ဟစ်ဂျ်ရီ (၂၁၅)ခုနှစ် |
| ကွယ်လွန်ချိန် | - | ဟစ်ဂျ်ရီ(၃၀၃)ခု၊ဆွဖရ်လ(၁၃)ရက်၊သက်တော် |
| | - | (၈၈)နှစ်ဆွဖာတောင်နှင့်မရ်ဝါတောင်ကြားတွင် မြှုပ်နှံခံရသည်။ |

အေမာမ်နစာအီသခင်ကြီးသည် ဟဒီးဆ်၊ဖေကဟ်နှင့် ဟဒီးဆ်ဆင့်ပြန်သူများ၏အတ္ထုပ္ပတ္တိတို့တွင် ပါရဂူမြောက်ကျွမ်းကျင်သည့် အေမာမ်တစ်ပါးဖြစ်သည်။ (၁၅) နှစ်သားအရွယ်၌“ဘဂ်လာန်”မြို့ရှိ ကမ္ဘာကျော်ပညာရှင်ကြီး ကုသိုင်ဗဟ်ဗင်န် စအီးဒ်ထံတွင်(၁၄)လနေထိုင်ပြီး ဟဒီးဆ်ပညာရပ်များကိုစတင်သင်ယူခဲ့သည်။ ဘဂ်ဒါးဒ်၊ ကူဖာ၊ ဟေဂျားဇ်၊အီဂျစ်၊ ဆီးရီးယားစသည့် ပညာအလင်းခ မြို့တော်များသို့လည်း ပညာဆည်းပူးရန် ကြွမြန်းခဲ့သည်။

သခင်သည် အေမာမ်ဗိုခါရီ၊ အေမာမ်အိစ်ဟားက်တို့အပြင် အခြားသော ကမ္ဘာကျော်ပညာရှင်ကြီး(၃၀၀)ကျော်ထံမှပညာသင်ယူခဲ့သည်။ အေမာမ်သွဟာဝီ ၊အေမာမ်အိဗ်နေ့စွန္နီနှင့် အခြားသောတပည့်ကျော်အမြောက်အများကိုမွေးထုတ်ပေးခဲ့သည်။နစာအီကျမ်းအပြငကမ္ဘာကျော်ကျမ်းပေါင်းများစွာကိုလည်းပြုစုခဲ့သည်။

အေမာမ်ဟာကင်မ် နိုင်စာပူရီ ﷴ က “အေမာမ်နစာအီ ﷴ သည် ဟဒီးဆ်၊ ဖေကဟ် နှင့်ဟဒီးဆ်ဆင့်ပြန်သူများ၏ အတ္ထုပ္ပတ္တိကိုနားလည်ရာတွင် အေမာမ် အဆင့်ရှိပြီး၊ ဟဒီးဆ်တော်များမှ သခင်ကြီးထုတ်နှုတ်ပြသသော အလှတရားများ၊ မှတ်သားဖွယ်ရာများမှာ အံ့မခန်းဖြစ်သည်” ဟု မိန့်ဆိုခဲ့သည်။

# နစာအီကျမ်း ( سُنَنُ النَّسَائِيْ )

| | | |
|---|---|---|
| အမည်အပြည့်အစုံ | - | اَلْمُجْتَبٰى / اَلْمُجْتَنٰى / اَلسُّنَنُ الصُّغْرٰى لِلنَّسَائِيْ |
| ဟဒီးဆ်တော်ပေါင်း | - | ၅၇၇၄ |
| ကဏ္ဍပေါင်း | - | ၅၈ |
| အခန်းပေါင်း | - | ၂၇၅ |

အေမာမ်နစာအီ သည် صحاح ستة ကျမ်းရှင်များတွင် နောက်ဆုံးမှကွယ်လွန်ခဲ့သည်။သခင်သည် အေမာမ်ဗိုခါရီ နှင့်အေမာမ်မွတ်စ်လင်မ်တို့၏ကျမ်းများ ရှိ ထူးခြားချက်များကို မိမိကျမ်းပြုစုရာတွင်ထည့်သွင်းနိုင်ခဲ့သည်။ ထို့ကြောင့်ပညာရှင်များက နစာအီကျမ်းကို တတိယအမှန်ဆုံးကျမ်းဖြစ်သည်ဟု ဆိုကြသည်။

အေမာမ်နစာအီ သည် ဦးစွာ السُّـنَـنُ الْكُبْرٰى အမည်ရှိကျမ်းကို ပြုစုခဲ့သည်။ ထို့နောက်“ရမ်လဟ်”ဘုရင်ခံကိုတင်ပြရာဘုရင်ခံက“ဤကျမ်းမစနဒ်အရခိုင်လုံသောဟဒီးဆ်များကိုသာထပ်မံစီစစ်ရွေးထုတ်ပေးပါ”ဟုတောင်းဆိုရာဤ السُّـــنَــن الصُّغْرٰى ကျမ်းကို စီစစ်ပြုစုခဲ့ခြင်းဖြစ်သည်။

ပညာရှင်များက“ဤကျမ်းသည်ဆန်းကျယ်သော ကျမ်းတစ်ဆူဖြစ်သည်။ စီမံမှုကောင်းသောကြောင့် စံမှီနေပြီး ဟဒီးဆ်၊ ဖေကဟ်၊ ဆင့်ပြန်သူများနှင့် ပတ်သက်သည့် မှတ်ချက်များနှင့်အတူ တန်ဖိုးမဖြတ်နိုင်သည့် ဟဒီးဆ်ဆိုင်ရာ သုတ များပါဝင်နေသော စွယ်စုံကျမ်းတစ်ဆူဖြစ်သည်” ဟု အဆိုပြုကြသည်။

အစ္စလာမ့်ပညတ်များနှင့်အတူ အေမာမ်ကြီး(၄)ပါး၏ အထောက်အထားများကို စနစ်တကျဖော်ပြထားသည်။ ဤကျမ်းတွင်ယုံကြည်ချက်ပိုင်း၊ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏အတ္ထုပ္ပတ္တိ၊ဆွဟာဗာသာဝကကြီးများ၏ထွန်းမြတ်မှု၊ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့်သက်ဆိုင်သည့်ဟဒီးဆ်တော်များပါဝင်သည်။ဟဒီးဆ်ပညာရှင်အမြောက်အများကသခင့်ထံမှ ဤကျမ်းကိုတိုက်ရိုက်သင်ယူခဲ့ကြပြီးအလွတ်ပင် ကျက်မှတ်ခဲ့ကြသည်။ ဤကျမ်း၏ ကျယ်ဖွင့်ဋီကာကျမ်းများ ရှင်းလင်းချက်များ၊ အခြေပြုကျမ်းများလည်း ရှိသည်။ ယင်းတို့အနက် شيخ محمد بن علي الإيتيوبي သခင်ကြီး၏ ذخيرة العقبى ကျမ်းသည်အတွဲ(၄၀) ရှိသည်။

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ ذخيرة العقبى ☆ السنة ومكانتها في التشريع الإسلامي
☆ حديث اور فہم حديث ☆ صحاح ستہ اور انکے مصنفین

# ၅။ အေမာမ် သိရ်မေ့ဇီ (محمد بن عيسى التِّرْمِذِيْ)

အမည်နှင့် မျိုးစဉ်ဆက် - محمدُ بنُ عيسى بنِ سَوْرَةَ التِّرْمِذِيْ اَلْبُوْغِيْ

ဘွဲ့သညာ - أبوعِيْسٰى

မွေးရပ်ဒေသ - ဂျီဟူးန်မြစ်ကမ်းပေါ်ရှိသိရ်မိဇ်မြို့

မွေးသက္ကရာဇ် - ရှောင်ဝလ်လ(၁၃)ရက်၊ ဟစ်ဂျ်ရီ (၂၀၉)ခုနှစ်၊ သောကြာနေ့

ကွယ်လွန်ချိန် - သက်တော်(၇၀)၊ ရဂျဗ်လ(၁၃)ရက်၊ဟစ်ဂျ်ရီ(၂၇၉)ခု

အေမာမ်သိရ်မေ့ဇီ ﷺ သခင်ကြီးသည် အလွန်ပင်ဉာဏ်ရည်ထက်မြက်သည့် အေမာမ်တစ်ပါးဖြစ်သည်။ အေမာမ်ဗိုခါရီသခင်၏လက်ဦးတပည့်ကျော်လည်းဖြစ်သည်။သို့သော်အေမာမ်ဗိုခါရီ က "ကျွန်ုပ်ထံမှ အသင်အကျိုးခံစားသည်ထက် ကျွန်ုပ်ကအသင့်ထံမှပိုမိုအကျိုးရရှိနေသည်"ဟုပင်မိန့်ဆိုခဲ့ဖူးသည်။ အေမာမ်ဗိုခါရီ အပြင် အခြားသောပညာရှင်ပေါင်းမြောက်များ စွာထံမှပညာဆည်းပူးခဲ့သည်။ အေမာမ်ဗိုခါရီ သခင်ကိုယ်တိုင် သခင့်ထံမှ ဟဒီးဆ်တော်များကို ဆင့်ပြန်ခဲ့သည်။

ဘဂ်ဒါးဒ်၊ ကူဖာ၊ဟေဂျားဇ်စသည့် ပညာအလင်းခ မြို့တော်များသို့ ပညာဆည်း ပူးရန် ကြွမြန်းခဲ့သည်။

သခင်သည် ဖေကဟ်၊ဟဒီးဆ်နှင့်အခြားသော အစ္စလာမ့်ပညာရပ်ပေါင်းစုံကိုပါရဂူမြောက်တတ်မြောက်ခဲ့သည်။ ဦးစွာပထမ الفقه المقارن (မဇ်ဟဗ်ကြီးလေးပါး၊ အခြားပညာရှင်တို့၏ရပ်တည်ချက်များကို ၎င်းတို့၏အထောက်အထားများနှင့် နှိုင်းယှဉ်ဖော်ပြသည့်ဘာသာရပ်)ကို မျိုးစေ့ချခဲ့သည်။

ကိုယ်တော်သခင် ﷺ ၏ရုပ်ဆင်းအင်္ဂါတော်များ၊ကိုယ်ကျင့်တရားများနှင့် ဝိသေသတို့ကို ဖော်ကျူးသည့် اَلشَّـمَـائِـلُ ကျမ်းပြုစုခြင်းမှာ အွမ္မသ်အတွက် မေ့မရနိုင်သည့် လက်ဆောင်တစ်ခုဖြစ်သည်။

သခင်ကြီးသည် ကမ္ဘာကျော်ကျမ်းပေါင်း(၁၀)ကျော်ကိုလည်းပြုစုခဲ့သည်။

# သိရ်မေ့ဇီကျမ်း ( سُنَنُ التِّرْمِذِيْ)

အမည်အပြည့်အစုံ - سُنَنُ التِّرْمِذِيْ / جَامِعُ التِّرْمِذِيْ /

اَلْجَامِعُ الْمُخْتَصَرُ مِنَ السُّنَنِ عَنْ رَسُوْلِ اللهِ ﷺ وَمَعْرِفَةُ الصَّحِيحِ وَالْمَعْلُوْلِ وَمَاعَلَيْهِ الْعَمَلُ

ဟဒီးဆ်တော်ပေါင်း - ၃၉၅၆

ကဏ္ဍပေါင်း - ၄၆

ဤကျမ်းတွင်အေမာမ်သိရ်မေ့ဇီ သခင်သည် ပညာရပ်ပေါင်း(၄၀)ကိုထည့်သွင်းဖော်ပြထားသည်။ "ဤကျမ်းရှိသည့်အိမ်သည် လိုအပ်သည်များကိုလမ်းညွှန်ပေးနေသော နဗီတမန်တော်တစ်ပါးရှိသည့် ပမာဖြစ်မည်"ဟု သခင်ကိုယ်တိုင်က မိန့်ကြားခဲ့သည်။ ဤကျမ်းပြုစုပြီးချိန် သခင်ကြီးသည်ဟေဂျာဇ်၊အိရားက်၊ခိုရာစာန်မှ ပညာရှင်ကြီးများကိုတင်ပြရာ အားလုံးက သဘောတူနှစ်သက်ခဲ့ကြသည်။

ဤကျမ်းသည် ဟဒီးဆ်၊ဖိကဟ်နှင့်ပတ်သက်သည့် ကဏ္ဍအလုံးစုံတို့အား လွယ်ကူစွာ မိတ်ဆက်ပေးသော ကျမ်းတစ်ဆူလည်းဖြစ်သည်။

ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွန်းမြတ်မှု၊ ကေယာမသ်မတိုင်မီထိ ဖြစ်ပျက်မည့် အကြောင်းစုံတို့နှင့်သက်ဆိုင်သော ဟဒီးဆ်တော်များကိုဆင့်ပြန်သူများ၊ အေမာမ်ကြီးများ၏အဆိုအမိန့်များ၊ ရပ်တည်ချက်များ၊ အထောက်အထားများနှင့်ပူးတွဲတင်ပြထားသည်။ ဤကျမ်း၏အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြကျမ်းများမှာလည်း အမြောက်အများရှိသည်။ဤကျမ်းတွင် ثُلاثِيَّـــات (ကိုယ်တော်နှင့်ကျမ်းရှင်ကြားတွင်ဆင့်ပြန်သူ(၃)ဦးသာရှိသည့်ဟဒီးဆ်)တစ်ပုဒ်လည်းပါဝင်သည်။

---

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ تحقيق اسمي الصحيحين

☆تحفة الأحوذي ☆ السنة ومكانتها في التشريع الإسلامي

☆ حديث اور فہم حديث ☆ صحاح ستہ اور انکے مصنفین

## ၆။ အေမာမ် အိဗ်နေ့ မာဂျာ (مُحَمَّدُ بْنُ يَزِيْدَ ابنِ مَاجَهْ)

| | | |
|---|---|---|
| အမည်နှင့် မျိုးစဉ်ဆက် | - | مُحَمَّدُ بْنُ يَزِيْدَ ابنِ مَاجَهْ اَلْقَزْوِيْنِي اَلرَّبْعِيِّ |
| ဘွဲ့သညာ | - | أبوعبدِ اللّٰه |
| မွေးရပ်ဒေသ | - | အီရတ်နိုင်ငံ၊ကတ်ဇ်ဝီးန်မြို့ |
| မွေးသက္ကရာဇ် | - | ဟစ်ဂျ်ရီ (၂၀၉)ခုနှစ် |
| ကွယ်လွန်ချိန် | - | ဟစ်ဂျ်ရီ(၂၇၃)ခု၊ရမ်ဇာန်လ(၂၂)ရက်၊ သက်တော်(၆၄)နှစ် |

အေမာမ်အိဗ်နေ့မာဂျာ သခင်ကြီးသည်လည်း ဟစ်ဂျ်ရီ(၃)ရာစုနှစ်၏ ကမ္ဘာကျော်အေမာမ်ကြီးတစ်ပါးဖြစ်သည်။ ထိုအချိန်တွင်ကတ်ဇ်ဝီးန်မြို့သည် ကမ္ဘာကျော် ပညာရှင်ကြီးများကို မွေးထုတ်ပေးခဲ့သည်။ သခင်သည်မိမိမြို့ရှိ ပညာရှင်များထံမှ(၂၂)နှစ်သားထိ ဟဒီးဆ်ပညာရပ်များကို သင်ယူခဲ့သည်။

ထို့နောက် ဘဂ်ဒါးဒ်၊ ကူဖာ၊ ဟေဂျားဇ်၊ အီဂျစ်၊ ဆီးရီးယားစသည့် ပညာအလင်းခမြို့တော်များသို့လည်း ပညာဆည်းပူးရန် ကြွမြန်းခဲ့သည်။

အေမာမ်အိဗ်နေ့မာဂျာသခင်ကြီးသည် ဟဒီးဆ်၊ ဖေကဟ်၊ ဟဒီးဆ် ဆင့်ပြန်သူများ၏ အတ္ထုပ္ပတ္တိ၊သမိုင်းနှင့်သဖ်စီးရ်ပညာရပ်တို့တွင် ပါရဂူမြောက် ကျွမ်းကျင်သည့် အေမာမ်ကြီးတစ်ပါးဖြစ်သည်။

သခင်သည် အေမာမ်အဗ်နေ့အဗီရှိုင်ဗဟ်၊ အေမာမ်ဒါရေ့မီတို့အပြင် အခြားသော ကမ္ဘာကျော်ပညာရှင်ကြီးများထံမှ ပညာသင်ယူခဲ့သည်။

ပညာရှင်များက "အေမာမ်အိဗ်နေ့မာဂျာ သခင်သည် ဟဒီးဆ်၊ ဖေကဟ်၊ ဟဒီးဆ်ဆင့်ပြန်သူများ၏ အတ္ထုပ္ပတ္တိ၊ သမိုင်းနှင့်သဖ်စီးရ်တို့ကို နားလည်ရာတွင် အေမာမ်အဆင့်ရှိပြီး၊ကျွမ်းကျင်လိမ္မာသူဟု တညီတညွတ်တည်း လက်ခံထားကြသည်။

# အိဗ်နေ့မာဂျာကျမ်း (سُنَنُ ابْنِ مَاجَهْ)

အမည်အပြည့်အစုံ - سُنَنُ ابْنِ مَاجَهْ
ဟဒီးဆ်တော်ပေါင်း - ၄၃၄၁
ကဏ္ဍပေါင်း - ၃၇
အခန်းပေါင်း - ၁၅၁၅

အေမာမ်အိဗ်နေ့မာဂျာ သခင်သည် မိမိထံရှိ သိန်းချီသောဟဒီးဆ်တော်များမှ ဤကျမ်းကို ကောက်နှုတ်ပြုစုခဲ့ခြင်းဖြစ်သည်။ သခင်သည် ဤကျမ်းပြုစုပြီးချိန်မိမိဆရာ အေမာမ်အဗူဇုရ်အဟ်ရာဇီ ကိုတင်ဆက်ရာဆရာက "ဒီကျမ်းသာလူတွေလက်ထဲရောက် သွားရင်တော့ဖြင့် တခြားကျမ်းတွေမလိုအပ်တော့ ဘဲဖြစ်သွားလိမ့်မယ်"ဟုမိန့်ခဲ့သည်။

ဤကျမ်းတွင် ထူးခြားချက်နှစ်ခုရှိသည်။

၁။ ကောင်းမွန်သော အစီအစဉ် (သခင်သည် မိမိကျမ်းကို အများနှင့်မတူဘဲဆွဟာဗာကြီးများ၏ထွင်မြတ်မှုနှင့်ဆိုင်သောဟဒီးဆ်တော်များနှင့်ဖွင့်ထားသည်။)

၂။ صحاح سته ၏အခြား(၅)ကျမ်းတွင် မပါသော ဟဒီးဆ်တော် အများအပြား ဤကျမ်းတွင်ပါဝင်နေသည်။

ထို့အတူဤကျမ်းတွင် ثُلَاثِيَّـات (ကိုယ်တော်နှင့်ကျမ်းရှင်ကြားတွင် ဆင့်ပြန်သူ (၃) ဦးသာရှိသည့်ဟဒီးဆ်) (၅)ပုဒ်ပါဝင်သည်။

အစ္စလာမ့်ပညတ်များနှင့်အတအေမာမ်ကြီး(၄)ပါး၏အထောက်အထားများကိုစနစ်တကျဖော်ပြထားသည်။ဤကျမ်းတွင်ယုံကြည်ချက်ပိုင်း၊ပညတ်ချက်ပိုင်း ကျမ်းမြတ်ကုရ်အာန်၏သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ် ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွင်မြတ်မှု၊ ကေယာမသ်မတိုင်မထိ ဖြစ်ပျက်မည့် အကြောင်းစုံတို့နှင့် သက်ဆိုင်သည့်ဟဒီးဆ်တော်များပါဝင်သည်။

ဤကျမ်း၏အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြကျမ်းများလည်းရှိသည်။ ယင်းတို့အနက် شيخ محمد بن علي الإيتيوبي သခင်ကြီး၏ مشارق الأنوار ကျမ်းသည် အလွန်ပင်အကျိုးရှိလှသည်။

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ مشارق الأنوار ☆ السنة ومكانتها في التشريع الإسلامي
☆ حدیث اور فہم حدیث ☆ صحاح ستہ اور انکے مصنفین ☆ ماتمس إليه الحاجة

## အခန်း (၁) သောင်ဟီးဒ်တရား လက်ကိုင်ထား

(١) قال الله تعالى : ﴿وَ إِلٰهُكُم إِلٰه وَاحِدٌ لَا إِلٰهَ إِلَّا هُوَ الرَّحمنُ الرَّحِيمُ﴾

စင်စစ်အားဖြင့်တစ်ဆူတည်းဖြစ်တော်မူသော ခဝပ်ကိုးကွယ်ရာအရှင်သည်သာလျှင် အသင်တို့၏ ကိုးကွယ်ရာအရှင်ဖြစ်တော်မူ၏။ ထိုအရှင်မြတ်မှတစ်ပါး အခြားကိုးကွယ်ရာအရှင်ဟူ၍အလျှင်းမရှိချေ။ထိုအရှင်မြတ်သည် အနန္တကရုဏာတော်ရှင်၊ အလွန်သနားကြင်နာတော်မူသော အရှင်မြတ်ဖြစ်တော်မူ၏။

(٢) وقال اللهتعالى : ﴿اَللهُ لَا إِلٰهَ إِلَّا هُوَ الحَيُّ القَيُّومُ لَا تَأخُذُهُ سِنَةٌ وَّلَا نَومٌ﴾

အလ္လာဟ်အရှင်မြတ်သည်(သာလျှင်ခဝပ်ကိုးကွယ်ရာ အရှင်ဖြစ်တော်မူ၏)။ ထိုအရှင်မြတ်မှ တစ်ပါး ကိုးကွယ်ခြင်း ခံထိုက်သူဟူ၍ အလျှင်းမရှိချေ။ (ထိုအရှင်မြတ်သည်) အမြဲရှင်နေတော်မူသောအရှင်၊ (မိမိကိုယ်တော်တိုင်ထာဝရတည်နေတော်မူ၍ သတ္တဝါအပေါင်းတို့ကိုလည်း) ထိန်းသိမ်းစောင့်ရှောက်တော်မူသောအရှင် ဖြစ်တော်မူ၏။ ထိုအရှင်မြတ်အား ငိုက်မျည်းခြင်းသည်လည်းကောင်း၊ အိပ်စက်ခြင်းသည်လည်းကောင်း မဖိစီးနိုင်ပေ။

### ကျက်မှန်ရန် ခက်ဆစ်များ

| | |
|---|---|
| إِلٰهٌ (ج) آلِهَةٌ | ကိုးကွယ်ရာအရှင် |
| الرَّحمنُ | အနန္တကရုဏာတော်ရှင် |
| الرَّحِيمُ | အလွန်သနားကြင်နာတော်မူသောအရှင် |
| الحَيُّ | အမြဲ ရှင်နေတော်မူသော အရှင် |

| | |
|---|---|
| القَيُّومُ | မိမိကိုယ်တော်တိုင် ထာဝရတည် နေတော်မူ၍ သတ္တဝါ အပေါင်းတို့ကိုလည်း) ထိန်းသိမ်း စောင့်ရှောက်တော်မူသောအရှင် |
| أَخَذَ (ن) أَخْذًا | ယူခြင်း (ဖိစီးခြင်း) |
| وَسِنَ (س) وَسْناً وسِنَةً | အိပ်ငိုက်ခြင်း၊ ငိုက်မျည်းခြင်း |
| نَامَ (ف) نَوْماً ومَنَاماً | အိပ်စက်ခြင်း |

## الحديث الأول (١)

عَـن عَبـدِاللّٰهِ بـنِ عَبَّـاسٍ ( رَضِـيَ اللّٰهعَنْهُما) قَالَ: لَمَّا بَعثَ النَّبِيُّ ﷺ مُعَاذَ بنَ جَبـلٍ (رَضِـيَ اللّٰهعَـنْـهُ) نَحوَ أَهلِ اليَمَنِ قالَ لَه: إِنَّكَ تَقْدَمُ عَلَى قَوْمٍ مِن أَهْلِ الكِتَابِ فَـلْيَكُنْ أَوَّلَ مَا تَدْعُوهُم إِلى أَن يُوَحِّدُوا اللّٰهَ، فَإِذَا عَرَفُوا ذَلِكَ ، فَأَخْبِرْهُم أَنَّ اللّٰهَ فَرَضَ عَلَيهِم خَمْسَ صَلَوَاتٍ فِيْ يومِهِم وَلَيْلَتِهِم. ﴿ رواه البخاري ﴾

### အဓိပ္ပါယ်

ဟဇရသ်အဗ်ဒွလ္လာဟ်ဗင်န်အဗ်ဗွါးစ် ؓ သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ဟဇရသ်မို့အားဇ်ဗင်ဂျဘလ် ؓ အား ယီမင်နိုင်ငံသို့ စေလွှတ်သောအခါ (ဤသို့) မိန့်မှာတော်မူခဲ့သည်။ အသင်သည် ကျမ်းဂန်ရရှိထားသောသူများထံသို့ သွားနေသည်ဖြစ်ရာ ထိုသူများအား ဦးစွာပထမ အလ္လာဟ်တစ်ပါးတည်းကိုသာ ခဝပ်ဆည်းကပ်ရန် ဖိတ်ခေါ်ပါ။ထိုသူများသည် အလ္လာဟ်တစ်ပါးတည်းကို ခဝပ်ဆည်းကပ်လာပါက အလ္လာဟ်အရှင်မြတ်သည် နေ့စဉ် နမားဇ် (၅) ကြိမ်အား ဖရဇ်အဖြစ်သတ်မှတ်ထားကြောင်း အသိပေးပါ။ ( ဗိုခါရီကျမ်း)

---

(١) أخرجه البخاري في كتاب التوحيد : باب ماجاء في دعاء النبي ﷺ أمته إلى توحيد الله.

**ကျက်မှန်ရန် ခက်ဆစ်များ**

| | |
|---|---|
| رَضِيَ (س) رِضاً ورِضْوَاناً (عن) | ကျေနပ်နှစ်သက်ခြင်း |
| بَعَثَ (ف) بَعْثاً وبعْثَةً | စေလွှတ်ခြင်း |
| قَدِمَ (س) قَدْماً وقُدُوْماً | သွားရောက်ခြင်း၊ရောက်လာခြင်း |
| قَوْمٌ (ج) أَقْوَامٌ | မျိုးနွယ်၊ အုပ်စု |
| دَعَا (ن) دَعْوَةً | ဖိတ်ခေါ်ခြင်း |
| عَرَفَ (ض) عُرْفاً وعِرْفَاناً | သိရှိခြင်း၊ လက်ခံခြင်း |
| وَحَّدَ (تفعيل) تَوْحِيْداً | တစ်ဆူတည်းဖြစ်အောင်လုပ်ခြင်း |
| أَخْبَرَ (إفعال) إخْباراً | သတင်းပေးခြင်း၊ အသိပေးခြင်း |
| فَرَضَ (ض) فَرْضاً (على) | သတ်မှတ်ခြင်း |
| صَلاَةٌ (ج) صَلَوَاتٌ | နမားဇ် |
| يَوْمٌ (ج) أَيَّامٌ | နေ့ရက် |
| لَيْلٌ (ج) لَيَالِيْ | ည |

## (٢) الحديث الثاني

عَـن مُعَاذِ بنِ جَبَل( رَضِيَ اللّٰهعَنْهُ) قَالَ: قَالَ النَّبِيُّ ﷺ : يَا مُعَاذُ أَتَدرِي مَا حَقُّ اللّٰهِ عَـلَـى الـعِبَـادِ ؟ قَالَ: اَللّٰهُ وَرَسُولُه أَعلَمُ. قَالَ: أَن يَعبُدُوا اللّٰه وَلاَ يُشرِكُوا بِهِ شَيئاً، أَتَدرِى مَاحَقُّهُم عَلَيهِ ؟ قَالَ: اَللّٰهُ وَرَسُولُهُ أَعلَمُ. قَالَ: أَن لَّا يُعَذِّبَهُم.

﴿ رواه البخاري ﴾

**အဓိပ္ပါယ်**

ဟဇရသ်မုအာဇ်ဇဗင်န်ဂျဗာလ် ؓ သခင်က ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ သည် မုအာဇ်သခင်အား အို မုအာဇ်၊ လူသားများသည် အလ္လာဟ်အရှင်မြတ်အား မည်သည့်တာဝန်ဝတ္တရားများ ပေးဆပ်ရမည်ကိုအသင်သိရှိနားလည်ပါသလား ၊ ဟုမေးမြန်းခဲ့ရာ သခင်ကအလ္လာဟ်နှင့်အလ္လာဟ်ရစူလ်သာလျှင် အသိဆုံးပါဟု ပြန်လည်လျှောက်ထား ခဲ့လေသည်။ ထိုအခါ တမန်တော်မြတ် ﷺ ကမိန့်ကြားသည်မှာ. . .

(٢) أخرجه البخاري كتاب التوحيد : باب ما جاء فى دعاء النبىﷺ أمته إلى توحيد اللّٰه.

အလ္လာဟ်တစ်ပါးတည်းကိုသာ ခဝပ်ဆည်းကပ်ရန်နှင့် မည်သည့် အရာကိုမျှ အလ္လာဟ်အရှင်မြတ်နှင့် တုဖက်နှိုင်းယှဉ်မှု အလျဉ်းမပြုလုပ်ရန် လူသားအားလုံးအပေါ် တာဝန်ရှိပေသည်။ ဆက်လက်၍ကိုယ်တော်က၊လူသားများသည်အလ္လာဟ်အရှင်မြတ်ထံ တော်ပါး၌ မည်သည့်အခွင့်အရေးများကို ရရှိမည်နည်း၊ ဟုမေးမြန်းရာ မို့အာဇ်သခင်က လည်း အလ္လာဟ်နှင့်အလ္လာဟ်ရစူလ်သာလျှင် အသိဆုံးဖြစ်ပါသည်ဟု လျှောက်ထားလေသည်။ ထိုအခါ ကိုယ်တော်က .. လူသားများအား အလ္လာဟ်အရှင်မြတ်သည် ပြစ်ဒဏ်ခတ်မည် မဟုတ်ဟု မိန့်ကြားခဲ့လေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှန်ရန် စကားဆစ်များ**

| | |
|---|---|
| دَرَى (ض) دَرْياً وَدِرَايَةً | သိရှိခြင်း၊ နားလည်ခြင်း |
| حَقٌّ (ج) حُقُوْقٌ | အခွင့်အရေး |
| عَبْدٌ (ج) عِبَادٌ | ကျေးကျွန်၊ လူသား |
| عَذَّبَ (تفعيل) تَعْذِيْباً | ပြစ်ဒဏ်ခတ်ခြင်း |
| أَشْرَكَ (إفعال) إِشْرَاكاً | တုဖက်နှိုင်းယှဉ်ခြင်း |
| شَيْءٌ (ج) أَشْيَاءُ | အရာဝတ္ထု၊ တစ်စုံတရာ |

## (٣) الحديث الثالث

عَنْ عَبدِاللّٰهِ بنِ عُمَرَ (رَضِيَ اللّٰهعَنْهُما) عَنِ النَّبِيِّ ﷺ قَالَ: مَفَاتِيحُ الغَيْبِ خَمسٌ لاَ يَعلَمُهَا إِلَّا اللّٰهُ، وَ لاَ يَعلَمُ مَا تَغِيضُ الأَرْحَامُ إِلَّا اللّٰهُ، وَلاَ يَعلَمُ مَا فِي غَدٍ إِلا اللّٰهُ، وَلاَ يَعلَمُ مَتىٰ يَأتِيْ المَطَرُ أَحَدٌ إِلَّا اللّٰهُ،وَلاَ تَدرِيْ نَفسٌ بِأَيِّ أَرْضٍ تَمُوتُ إِلَّا اللّٰهُ وَلاَ يَعْلَمُ مَتى تَقُومُ السَّاعَةُ إِلَّا اللهُ. ﴿رواه البخاري﴾

---

(٣) أخرجه البخاري كتاب التوحيد : باب قول الله تعالى۔ عالم الغيب فلا يظهر على غيبه أحدا.

## အဓိပ္ပါယ်

အဗ်ဒွလ္လာဟ်ဗင်န်အိုမရ် ﵁ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်ကြား တော်မူသည်မှာ. . အကွယ်၌ရှိသောအရာများ၏သော့ချက်များသည် ငါးခုရှိသည်။ ထိုသော့များကို အလ္လာဟ်အရှင်မြတ်မှလွဲ၍ မည်သူမျှမသိနိုင်ပါ။ထို(၅)ခုမှာ. . သားအိမ်များသည် မည်သည့်အရာကို ချွတ်ယွင်းစေသည်ကိုလည်းကောင်း၊မနက်ဖြန် မည်သည့်အကြောင်းအရာဖြစ်ပျက်လာမည်ကိုလည်းကောင်း၊မည့်သည်အချိန်၌ မိုးရွာသွန်းမည်ကိုလည်းကောင်း၊ အလ္လာဟ်အရှင်မြတ်မှ လွဲ၍ မည်သူတစ်ဦးတစ်ယောက်မျှ မသိနိုင်ပေ။ ထို့အတူ လူသားတစ်ဦးသည် မည်သည့်အရပ်ဒေသ၌ သေဆုံးမည်ကိုလည်းကောင်း၊ မည့်သည့်အချိန်၌ ကေယာမသ်ကျရောက်လာမည်ကို လည်ကောင်း မည်သည့်သူမျှ အလျဉ်း မသိရှိနိုင်ပေ။ (ဗိုခါရီကျမ်း)

## ကျက်မှန်ရန် ခက်ဆစ်များ

| | |
|---|---|
| သော့တံ | مِفْتَاحٌ (ج) مَفَاتِيحُ |
| ချွတ်ယွင်းခြင်း၊နည်းပါးခြင်း | غَاضَ (ض) غَيْضاً |
| သားအိမ် | رَحِمٌ (ج) أَرْحَامٌ |
| ရောက်လာခြင်း၊ ယူဆောင်လာခြင်း | أَتَى (ض) إِتْيَاناً |
| မိုး | مطر (ج) أَمْطَارٌ |
| သေဆုံးခြင်း | مَاتَ (ن) مَوتاً |
| အသက် ၊ လူတစ်ဦးတစ်ယောက် | نَفْسٌ (ج) نُفُوسٌ و أَنْفُسٌ |
| ရပ်ခြင်း၊ ဖြစ်ပေါ်လာခြင်း၊လုပ်ဆောင်ခြင်း | قَامَ (ن) قَوْماً وقِياماً |
| အချိန် ၊ နာရီ ၊ ကေယာမသ် | ساعةٌ (ج) ساعاتٌ |
| ပျောက်ကွယ်ခြင်း၊အကွယ်၌ရှိခြင်း | غاب (ض) غَيْباً وغِيَاباً |

## အခန်း (၂) ကုရ်အာန် နှင့် စွန္နသ် လမ်းစဉ်

١ـ قَالَ اللهُ تَعَالَى : ﴿مَا فَرَّطنَا فِيْ الكَتٰبِ مِن شَىءٍ﴾

ငါအရှင်မြတ်သည် မိမိ (မှတ်တမ်း) စာအုပ်တွင် တစုံတရာကိုမျှ ချန်လှပ်ထားတော်မူသည်မရှိချေ။ (စူရဟ် ၆၊ အာယသ် ၃၈)

٢ـوَقَالَ اللهُ تَعَالَى : ﴿فَإِن تَنَازَعتُمْ فِيْ شَىءٍ فَرُدُّوه إِلَى اللّٰهِ وَالرَّسُولِ﴾

အကယ်၍အသင်တို့သည် တစုံတရာကိစ္စနှင့်ပတ်သက်၍ အငြင်းပွားခဲ့ကြသော် ထိုကိစ္စကို အလ္လာဟ်အရှင်မြတ်ထံတော်သို့လည်းကောင်း၊ ရစူလ်တမန်တော်၏ထံပါးသို့လည်းကောင်း ပြန်လည်ပို့သကြပါ။ (စူရဟ် ၄၊ အာယသ် ၅၉)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| فَرَّطَ (تفعيل) تفريطاً | ချန်လှပ်ထားခြင်း၊လျှော့နည်းစေခြင်း |
| تَنازَعَ (تفاعل) تَنازُعاً | အငြင်းပွားခြင်း |
| رَدَّ (ن) رَدّاً ورُدُوْداً | ပြန်ပေးခြင်း၊ ပြန်လှည့်ခြင်း |

## (٤) الحديث الرابع

عَن عَائِشَةَ ( رَضِيَ اللّٰه عَنهَا) قَالَت: قَالَ رَسُولُ اللّٰهِ ﷺ : مَن أَحدَثَ فِيْ أَمرِنَا هَذَا ، مَا لَيسَ مِنهُ فَهُو رَدٌّ . ﴿ متفق عليه ﴾

### အဓိပ္ပါယ်

ဟဇရသ်အာအေ့ရှာဟ် ﵂ သခင်မဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . . မည်သူမဆို ငါတို့၏သာသနာတွင်မရှိသောအရာတစ်ခုခုကို အသစ်တီထွင် ဖန်တီးခဲ့ပါက ထိုသူ (ဖန်တီးလိုက်သော)အရာသည် ပစ်ပယ်ခြင်းခံရပေမည်။ (ဗိုခါရီကျမ်း နှင့် မွတ်စ်လင်မ်ကျမ်း)

---

(٤) أخرجه البخارى في كتاب الصلح: باب إذا اصطلحوا على صلح جور فالصلح مردود.
وأخرجه مسلم في كتاب الأقضية: باب نقض الأحكام الباطلة و رد محدثات الأمور.

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| أَحْدَثَ (إفعال) إِحْداثاً | အသစ်တီထွင်ဖန်တီးခြင်း |
| أَمْرٌ (ج) أُمُوْرٌ | ကိစ္စရပ် ၊ အကြောင်းအရာ |

## (٥) الحديث الخامس

عـن أبـي هـريـرةَ (رَضِيَ اللّٰهُ عَنْهُ) عن النَّبيِّ ﷺ قَالَ : دَعُوْنِيْ مَا تَرَكْتُكُم ، إِنَّـمَا أَهْلَكَ مَن كَانَ قَبلَكُم كَثرَةُ سُؤالِهِم واخْتِلافُهُم عَلَى أنبيَائِهِم ، فَإِذَا نَهَيتُكُم عَن شَيءٍ فَاجْتَنِبُوهُ ، وَإِذَا أَمَرتُكُم بأمرٍ فَأتُوا مِنهُ مَا استَطَعتُم . ﴿مُتَّفَقٌ عَلَيهِ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ؓ သခင်က ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . အသင်တို့သည် ငါကိုယ်တော်ချန်လပ် ထားခဲ့သော အရာများနှင့် ပတ်သက်၍ (အမေးမြန်းထူခြင်း) မပြုလုပ်ကြနှင့်။ အသင်တို့၏ အလျင်ရှိ ပုဂ္ဂိုလ်များသည် အမေးမြန်ထူခြင်းနှင့် မိမိတို့တမန်တော်များ၏(အမိန့်)များကို ဖီဆန်ခြင်းကြောင့်သာ ဘဝပျက်ခဲ့ပြီးဖြစ်သည်။ သို့ဖြစ်ရာငါကိုယ်တော်သည် တစုံတခုအား တားမြစ်ပိတ်ပင်ပါက ထိုအရာကိုရှောင်ကြဉ်ပါ။ ငါကိုယ်တော်သည် တစုံတခုအားအမိန့်ပေးသောအခါ ထိုအရာကို တတ်စွမ်းသရွေ့ လိုက်နာဆောင်ရွက်ကြကုန်။

(ဗိုခါရီကျမ်း နှင့် မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| وَدَعَ (ف) دَعةً | စွန့်လွှတ်ခြင်း |
| تَرَكَ (ن) تَرْكاً | စွန့်လွှတ်ခြင်း |
| أَهْلَكَ (إفعال) إِهْلاكاً | ဖျက်ဆီးခြင်း |
| سُؤالٌ (ج) أَسْئِلَةٌ | မေးခွန်း |

(٥)أخرجه البخاري في كتاب الاعتصام بالكتاب، باب الاقتداء بسنن رسول اللّٰه ﷺ.
و أخرجه مسلم في كتاب الفضائل، باب توقيره وترك إكثار سؤاله

| | |
|---|---|
| اخْتَلَفَ ( افتعال) اخْتلافاً | ဆန့်ကျင်ဘက်ဖြစ်ခြင်း၊ ဆန့်ကျင်ခြင်း |
| نَهَى (ف) نهْياً (عن) | တားမြစ်ခြင်း |
| اجْتَنَبَ ( افتعال) اجْتِناباً | ရှောင်ကြဉ်ခြင်း |
| أمَر (ن) أمْراً | အမိန့်ပေးခြင်း |
| اسْتَطَاعَ (استفعال) اسْتِطَاعَةً | တတ်စွမ်းနိုင်ခြင်း |

## (٦) الحديث السادس

عَـن أَبيْ هريرةَ ( رَضِيَ اللّٰهعَنْهُ) : أنَّ رَسُول اللّٰه ﷺ قَالَ : كُلُّ أُمَّتِي يَدْخُلُونَ الـجَـنَّةَ إلَّا مَـن أبَـىٰ ـ قيـلَ : وَمَن يَأبَىٰ يا رَسُول اللّٰه ؟ قَالَ : مَنْ أَطَاعَنِي دَخَلَ الجَنَّةَ وَمَنْ عَصَانِيْ فَقَد أبَىٰ .﴿ رواه البخارى ﴾

### အဓိပ္ပါယ်

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﵁ သခင်က ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . ငြင်းဆန်သူမှအပ ငါကိုယ်တော်၏ အွမ္မသ်သားအားလုံးတို့သည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရပေမည်။ထိုအခါလျှောက်ထားကြသည်မှာ. . အို ကိုယ်တော်၊ ငြင်းဆန်သူဆိုသည်မှာမည်သူနည်း။ ကိုယ်တော်က မိန့်တော်မူသည်မှာ . . . . ငါကိုယ်တော်၏ အမိန့်နာခံသူသည် ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည်ဖြစ်ပြီးအမိန့်ဖီဆန်သူသည် ငြင်းဆန်သူ ပင်ဖြစ်သည်။ (ဗိုခါရီကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| دَخَلَ (ن) دُخُولاً | ဝင်ရောက်ခြင်း |
| أُمَّةٌ (ج) أُمَمٌ | အုပ်စု၊ မျိုးနွယ် |
| أَبَي (ف) إِباءً و إِبَاءَةً | ငြင်းဆန်ခြင်း၊ မနှစ်မြို့ခြင်း |

---

(٦) أخرجه البخاري في كتاب الاعتصام بالكتاب، باب الاقتداء بسنن رسول اللّٰه ﷺ.

| | |
|---|---|
| أطاع (إفعال) إطاعةً | အမိန့်နာခံခြင်း |
| عصى (ض) عَصْياً وعِصْياناً | အမိန့်ဖီဆန်ခြင်း |

## အခန်း (၃) အိပ်ခြင်းဆိုင်ရာ စည်းကမ်းများ

## (٧) الحديث السابع

عَنِ البَرَاءِ بنِ عَازِبٍ ( رَضِيَ اللّٰهُعَنْهُ) أَنَّ النَّبِيَّ ﷺ أَوصَى رَجُلاً فَقَالَ : إِذَا أَردتَ مَضْجَعَكَ فَقُلْ: اللَّهُمَّ أَسلَمتُ نفسِي إِلَيكَ وَفَوَّضْتُ أَمْرِي إِلَيكَ وَوَجَّهْتُ وَجْهِي إِلَيكَ وَأَلجَأتُ ظَهرِي إِلَيكَ رَغْبَةً وَرَهْبَةً إِلَيكَ لاَ مَلْجَأَ وَلاَ مَنْجَىٰ مِنْكَ إِلَّا إِلَيْكَ، آمَنْتُ بِكِتَابِكَ الَّذِيْ أَنْزَلْتَ، وَبِنَبِيِّكَ الَّذيْ أَرْسَلْتَ ـ فَإِنْ مُتَّ، مُتَّ عَلَى الفِطْرَةِ . ﴿ رواه البخاري﴾

### အဓိပ္ပါယ်

ဟဇရသ် ဗရားဗင်န်အာဇေ့ဗ် ﷺ သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ပုဂ္ဂိုလ်တစ်ဦးအား (အိပ်စက်အနားယူခြင်းနှင့်ပတ်သက်၍)မိန့်ခဲ့သည်မှာ. . အသင်သည် အိပ်ယာဝင်သောအခါ(ဤဒိုအာ)ကို ရွတ်ဖတ်ပါ။အိုအရှင်၊ ကျွန်တော်မျိုးသည် မိမိကိုယ်ကိုမိမိ အရှင်မြတ်ထံ လွှဲအပ်ပါ၏။ ကျွန်တော်မျိုး၏ကိစ္စအဝကိုလည်း အရှင်မြတ်ထံ အပ်နှံပါ၏။ ကျွန်တော်မျိုးသည် ကိုယ်စိတ်နှလုံးသုံးပါးဖြင့် အရှင်မြတ်ကို(တသ) ပါ၏။ ကျွန်တော်မျိုးသည် (အကျိုးစဝါးဗ်) ကိုမျှော်ကိုး ၍လည်းကောင်း၊(ပြစ်ဒဏ်များကို) စိုးရိမ်ကြောက် ရွံ့၍လည်းကောင်း၊ အကြောင်းကိစ္စအဝဝ၌ အရှင်မြတ်ကိုသာ ယုံကြည်အားကိုးပါ၏။ အရှင်မြတ်ထံတော်ပါးမှအပ လွတ်မြောက်ရာအရပ် မရှိသလို၊ ကွန်းခိုရာနေရာလည်းမရှိပါ။ ကျွန်တော်မျိုးသည် အရှင်မြတ်ချပေးတော်မူသော ကျမ်းဂန်အားလည်းကောင်း၊ အရှင်မြတ်စေလွှတ်တော်မူသော တမန်တော်မြတ်အားလည်းကောင်း (အပြည့်အဝ)ယုံကြည်ပါ၏။ တမန်တော်မြတ် ﷺ ကဆက်လက်၍ မိန့်တော်မူသည်မှာ. . အသင်သည်(အထက်ပါဒိုအာကို ရွတ်ဖတ်၍) သေဆုံးသွားပါက သာသနာဝင်အဖြစ် သေဆုံးခြင်းဖြစ်မည်။ (ဗိုခါရီကျမ်း)

(٧) أخرجه البخاري في كتاب الدعوات، باب مايقول إذا نام .

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| မှာတမ်းခြင်း၊ မိန့်မှာခြင်း | أَوْصي ( إفعال) إِيْصاءً |
| အိပ်ယာ၊ လဲလျောင်းရာနေရာ | مَضْجَعٌ (ج) مَضَاجِعُ |
| လွှဲအပ်ခြင်း၊နာခံခြင်း | أَسْلَمَ (إفعال) إسلاماً |
| လွှဲပြောင်းပေးခြင်း | فَوَّضَ ( تفعيل) تفويضاً |
| ဦးတည်ခြင်း၊ | وَجَّهَ ( تفعيل) تَوْجِيْهًا |
| ခိုလှုံရာဌာန | مَلْجَأٌ (ج) مَلَاجِيُ |
| လိုလားနှစ်သက်ခြင်း | رَغِب (س) رَغَباً |
| ကြောက်ရွံ့ခြင်း | رَهِب (س) رَهَباً و رَهْبَةً |
| လွတ်မြောက်ခြင်း | نَجا (ن) نَجَاءً ونَجاةً |
| အီမာန်ယုံကြည်ခြင်း | آمن (إفعال) إِيْماناً |
| ချပေးခြင်း | أَنْزَل (إفعال) إنزالًا |
| စေလွှတ်ခြင်း | أَرْسل (إفعال) إرسالًا |
| သဘာဝ၊ ဗီဇ၊ သာသနာ၊အကျင့်စရိုက် | فِطْرَةٌ ( ج) فِطَرٌ |

## (٨) الحديث الثامن

عَنْ عَائِشَةَ ( رَضِيَ اللّٰهعَنْهَا) أَنَّ رَسُولَ اللّٰهِ ﷺ كَانَ إِذَا أَخَذَ مَضْجَعَهُ نَفَثَ فِيْ يَدَيْهِ وَقَرَأَ بِالْمُعَوَّذَاتِ وَمَسَحَ بِهِمَا جَسَدَهُ .﴿ رواه البخاري ﴾

**အဓိပ္ပါယ်**

ဟဇရသ်အာအေ့ရှာ ﵂ သခင်မဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် အိပ်စက်အနားယူတော်မူသောအခါ စူရဟ်အေ့ခ်လားစ် စူရဟ်ဖလပ်က်နှင့်စူရဟ်နားစ်တို့

(٨) أخرجه البخاري في كتاب الدعوات، باب التعوذ والقراءة عند المنام.

အား အမြဲရွတ်ဖတ်တော်မူ၍ မိမိလက်နှစ်ဖက်ပေါ်တွင် မန်းမှုတ်လေ့ရှိသည်။ ထို့နောက် လက်နှစ်ဖက်ဖြင့် ခန္ဓာကိုယ် တစ်ခုလုံးအား ပွတ်သပ်တော်မူလေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| نَفَثَ (ن-س) نَفْثاً | မှုတ်ခြင်း |
| قرأ (ف) قِراءةً وقُرْآنًا | ရွတ်ဖတ်ခြင်း |
| مَسَح (ف) مَسْحاً | ပွတ်သပ်ခြင်း |
| جَسدٌ (ج) أجْسادٌ | ကိုယ်ခန္ဓာ |

## (٩) الحديث التاسع

عَنِ ابنِ عَبَّاس( رَضِيَ اللّٰهعَنْهُمَا)قالَ:كَانَ النَّبِيُّ ﷺ إِذَا قَامَ مِنَ اللَّيلِ يَتَهَجَّدُ قَالَ: اللَّهُمَّ لَكَ الحَمدُ أَنتَ نُورُ السَّمَوَاتِ وَالأَرضِ وَمَنْ فِيهِنَّ ، وَلَكَ الحَمْدُ أَنتَ قَيِّمُ السَّمَوَاتِ وَالأَرضِ وَمَن فِيهِنّ، وَلَكَ الحَمدُ أَنتَ الحَقُّ وَوَعدُكَ الحَقُّ وَقَولُكَ حَقٌّ وَلِقَاؤُكَ حَقٌّ وَالجَنَّةُ حَقٌّ وَالنَّارُ حَقٌّ وَالسَّاعَةُ حَقٌّ وَالنَّبِيُّونَ حَقٌّ وَمُحَمَّدٌ حَقٌّ، اللَّهُمَّ لَكَ أَسلَمتُ وَعَلَيكَ تَوَكَّلتُ،وَبِكَ آمَنتُ وَإِلَيكَ أَنبتُ وَبِكَ خَاصَمتُ وَإِلَيكَ حَاكَمتُ ، فَاغفِر لِي مَا قَدَّمتُ وَمَا أَخَّرتُ وَمَا أَسرَرتُ وَمَا أَعلَنتُ، أَنتَ المُقَدِّمُ وَأَنتَ المُؤَخِّرُ لَا إِلَهَ إِلَّا أَنتَ ، أَوْ لَا إِلَهَ غَيْرُكَ. ﴿ رواه البخاري ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗ်ဒွလ္လာဟ်ဗင်န်အဗ်ဗွားစ် ﷛ သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ညအချိန် သဟပ်ဂျ်ဂျဒ်နမားဇ်ဝတ်ပြုရန် ထသောအခါ(ဤဒိုအာကို)ရွတ်ဖတ်တော်မူလေသည်။ အိုအရှင်၊ ချီးမွမ်းခြင်း အလုံးစုံတို့သည် အရှင်မြတ်အတွက်သာလျှင်ဖြစ်ပါ၏။ မိုးကောင်းကင်၊မြေပထဝီနှင့် ရှိရှိသမျှအရာအားလုံးတို့ကို လင်းဝင်းစေ

---

(٩) أخرجه البخاري في كتاب الدعوات،باب الدعاء إذا انتبه من الليل.

တော်မူသောအရှင်သည် အရှင်မြတ်သည်သာလျှင်ဖြစ်ပါ၏။ ချီးမွမ်းခြင်းအလုံးစုံတို့သည် အရှင်မြတ် အတွက်သာလျှင်ဖြစ်ပါ၏။မိုးကောင်းကင်၊မြေပထဝီနှင့် ရှိရှိသမျှအရာ အားလုံးတို့ကို ထိန်းကျောင်းတော်မူသောအရှင်သည်လည်း အရှင်မြတ်သည် သာလျှင် ဖြစ်ပါ၏။ချီးမွမ်းထောပနာမှု အလုံးစုံတို့သည် အရှင်မြတ် အတွက်သာလျှင်ဖြစ်ပါ၏။ အရှင်မြတ်သည်လည်းကောင်း၊ အရှင်မြတ်၏ကတိတော်သည် လည်းကောင်း၊ အရှင်မြတ် ၏အမိန့်တော်သည် လည်းကောင်း၊ အရှင်မြတ်နှင့် ပြန်လည်တွေ့ဆုံရမည့် အချိန် သည်လည်းကောင်း၊ ဂျန္နသ်သုခဘုံသည် လည်းကောင်း၊ ဂျဟန္နမ်သည် လည်းကောင်း၊ ကေယာမသ်နေ့သည်လည်းကောင်း၊ နဗီတမန်တော်များသည်လည်းကောင်း၊ တမန်တော် မိုဟမ္မဒ် ﷺသည်လည်းကောင်း၊ အတိအကျ အမှန်အကန်ဖြစ်ပါ၏။ ကျွန်တော်မျိုးသည် အရှင်မြတ်၏ အမိန့်တော်ကိုနာခံပါ၏။ အရှင်မြတ်ကိုလည်း မှီခိုအားထားပါ၏။အရှင်မြတ် ကိုလည်း အီမာန်ယုံကြည်ပါ၏။ အရှင်မြတ်ထံတော်သို့သာ ပြန်လှည့်ပါ၏။ ကိစ္စအဝဝ အား အရှင်မြတ်၏ အကူအညီဖြင့် သာဖြေရှင်းပါ၏။ အရှင်မြတ်၏အဆုံးအဖြတ်ကိုသာ ယုံကြည်လက်ခံပါ၏။ အိုအရှင်၊ ကျွန်တော်မျိုး ပြုလုပ်ခဲ့သော အရာများကိုလည်းကောင်း၊ နောက်ပြုလုပ်မည့်အရာများကို လည်းကောင်း၊ လူသိရှင်ကြားပြုလုပ်ခဲ့သော အရာများကို လည်းကောင်း၊ ဖုံးကွယ်၍ ပြုလုပ်ခဲ့သော အရာဟူသရွေ့တို့မှ လည်းကောင်း၊ လွတ်ငြိမ်း ချမ်းသာခွင့် ချီးမြင့်တော်မူပါ။ အရှင်မြတ်သည်သာ ဦးဆုံး တည်ရှိတော်မူသောအရှင်ဖြစ် ပြီး၊နောက်ဆုံးကျန်ရှိတော်မူသော အရှင်မြတ်လည်းဖြစ်တော်မူပါ၏။ အရှင်မြတ်သည်သာ ကိုးကွယ်ခံထိုက်တော်မူသော အရှင်သခင်ဖြစ်ပါ၏။ (ဗိုခါရီကျမ်း)

**ကျတ်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| သဟပ်ဂျ်ဂျုဒ်နမားဇ်ဝတ်ပြုခြင်း | تهجّد (تفعل) تَهَجُّداً |
| တွေ့ဆုံခြင်း | لقِي (س) لِقاءً |
| ကတိပေးခြင်း | وعَد (ض) وعْدًا |
| အားကိုးအားထားပြုခြင်း | توَكّل (تفعل) تَوَكُّلًا |

| | |
|---|---|
| خاصم (فاعل) مُخَاصَمةً وخِصَامًا | အငြင်းပွားခြင်း |
| أَنَاب (إفعال) إِنابةً | ပြန်လှည့်ခြင်း၊အမှားဝန်ချတောင်းပန်ခြင်း |
| حاكم (فاعل) مُحاكمةً | အဆုံးအဖြတ်ပေးရန် အလ္လာဟ်ဘက်သို့လှည့်ခြင်း |
| أعلن (إفعال) إعلاناً | ကြော်ငြာခြင်း |
| أَسَرَّ (إفعال) إسراراً | ဖုံးကွယ်၍ပြုလုပ်ခြင်း |
| أَخَّر (تفعيل) تأخِيراً | နောက်ဆိုင်းခြင်း |
| قدَّم (تفعيل) تقديماً | ရှေ့သို့ပို့ခြင်း |

## (١٠) الحديث العاشر

عَن أَبِي هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) أَنَّ رَسُولَ اللَّهِ ﷺ قَالَ: يَتَنَزَّلُ رَبُّنَا تَبَارَكَ وَتَعَالَى كُلَّ لَيلَةٍ إِلَى السَّمَاءِ الدُّنيَا حِينَ يَبقَى ثُلُثُ اللَّيلِ الآخِرُ، يَقُولُ: مَن يَدعُونِي فَأَستَجِيبَ لَهُ، مَن يَسأَلُنِي فَأُعطِيَهُ، وَمَن يَستَغفِرُنِي فَأَغفِرَ لَهُ. ﴿رواه البخاري﴾

### အဓိပ္ပါယ်

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﵁ သခင်က ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ က မိန့်တော်မူသည်မှာ. . ညဉ်၏နောက်ဆုံးယံ သုံးပုံတစ်ပုံကျန်ရှိချိန်တွင် အလ္လာဟ်အရှင်မြတ်သည် ညစဉ်ညတိုင်းလောက၏မိုးကောင်းကင်သို့ ကြွမြန်းလာတော်မူ၍(အောက်ပါ) အတိုင်း ကြေညာတော်မူ၏။“မည်သူမဆို (မိမိ၏လိုအပ်ချက်များကို) ငါအရှင်မြတ်၏ ထံတော်ပါးတွင်တောင်းခံမည်ဆိုပါက ငါအရှင်မြတ်သည် ချီးမြှင့်တော်မူမည်။ မည်သူမဆို (မိမိလို အပ်ချက်များကို) ငါအရှင်၏ထံတော်တွင် တောင်းခံမည်ဆိုပါက ငါအရှင်သည် ပေးကမ်းတော်မူမည်။ မည်သူမဆို ငါအရှင်မြတ်၏ထံတော်တွင် (မိမိ၏အပြစ်များမှ) လွတ်ငြိမ်း ချမ်းသာခွင့်တောင်းခံပါက ငါအရှင်သည် မုချ လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူမည်။ (ဗိုခါရီကျမ်း)

---

(١٠) أخرجه البخاري في كتاب الدعوات، باب الدعاء نصف الليل.

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| လွတ်ငြိမ်းချမ်းသာခွင့်တောင်းခံခြင်း | استغفر (استفعال) استغفاراً |
| လက်ခံသဘောတူခြင်း | استجاب (استفعال) استِجابَةً |
| ပေးကမ်းခြင်း | أعطى (إفعال) إعْطاءً |
| ကျန်ရှိခြင်း | بقِي (س) بَقاءً |

## (١١) الحديث الحادي عشر

عَـنْ أَبِي ذَرٍّ (رَضِيَ اللّٰهعَنُهُ) قَالَ: كَانَ النَّبِيُّ ﷺ إِذَا أَخَذَ مَضْجَعَهُ مِنَ اللَّيلِ، قَـالَ: اللَّهُمَّ بِاسمِكَ أَمُوتُ وَأَحْيَا ـ فَإِذَا استَيْقَظَ قَالَ الحَمْدُ لِلَّهِ الَّذِي أَحْيَانَا بَعدَ مَا أَمَاتَنَا وَإِلَيهِ النُّشُورُ . ﴿ رواه البخاري ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဇရ် ﷛ သခင်ကဆင့်ပြန်ခဲ့သည်။ကိုယ်တော်သခင်ﷺသည် ညအိပ်ယာဝင်သောအခါ (အောက်ပါဒိုအာ) ကိုအမြဲရွတ်ဖတ်တော်မူလေသည်။ အိုအရှင်၊ ကျွန်တော်မျိုးသည် အရှင်မြတ်၏နာမတော်ဖြင့်သာ အိပ်စက်အနားယူပြီး၊ပြန်လည်နိုးထမည်ဖြစ်သည်။ကိုယ်တော်သည် မနက်ပြန်လည်နိုးထလာသောအခါ(အောက်ပါဒိုအာကို) ရွတ်ဖတ်တော်မူလေသည်။ ချီးမွမ်းထောပနာမှုအလုံးစုံတို့သည် ကျွန်တော်မျိုးတို့အား သေစေပြီးနောက် ပြန်လည်ရှင်သန်စေသော အရှင်အတွက်သာလျှင်ဖြစ်ပါသည်။ပြန်လည်ရှင်ပြန်ထ၍ စုရုံးခြင်းသည်လည်း အရှင်မြတ်ထံပါးသို့သာ ဖြစ်ပါသည်။(ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| ရှင်စေခြင်း | أحي (إفعال) إحْياءً |
| နိုးထခြင်း | استيقظ (استفعال) استيقاظاً |
| သေစေခြင်း | أمات (إفعال) إمَاتَةً |

(١١) أخرجه البخاري في كتاب الدعوات. باب مايقول إذا أصبح.

## (١٢) الحديث الثاني عشر

عَـن أَبِـيْ هُرَيرَةَ ( رَضِيَ اللّٰهعَنْهُ)عَنِ النَّبِيِّ ﷺ أَنَّـهُ كَانَ يَقُولُ : إِذَا أَصبَحَ اللَّهُمَّ بِكَ أَصْبَـحْـنَا وَبِكَ أَمسَيْنَا وَبِكَ نَحْيَا وَبِكَ نَمُوْتُ وَإِلَيكَ النُّشُوْرُ ـ وَإِذَا أَمسَىٰ ، قَالَ اللَّهُمَّ بِكَ أَمسَيْنَا وَبِكَ نَحْيَا وَبِكَ نَمُوْتُ وَإِلَيكَ النُّشُورُ . ﴿ رواه أبوداود ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﷺ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် နံနက်ခင်းအချိန်တွင် (ဤဒိုအာကို) အမြဲရွတ်ဖတ်တော်မူလေ့ရှိသည်။ အိုအရှင်၊ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏(ကျေးဇူးတော်ဖြင့်)နံနက်ခင်းနှင့်ကြုံဆုံခွင့်ရရှိခဲ့ပါပြီ။ အရှင်မြတ်၏(ကျေးဇူးတော်ဖြင့်) ညနေခင်းကိုလည်း ကုန်ဆုံးမည်ဖြစ်ပါ၏။အရှင်မြတ်၏(အမိန့်တော်)ဖြင့်သာရှင်သန်နေမည်။ သေဆုံးပါမည်။ အရှင်မြတ်ထံတော်ပါးသို့သာ ပြန်လည်စုရုံးရပါမည်။ တမန်တော်သည် ညနေခင်းအချိန်တွင် (အထက်ပါအတိုင်း) ရွတ်ဆိုတော်မူလေသည်။အိုအရှင်၊ ကျွန်တော်မျိုးတို့သည် အရှင်မြတ်၏(ကျေးဇူးတော်ဖြင့်)သာ ညနေခင်းကို ကြုံဆုံခွင့်ရရှိနေပါပြီ. . . . . . . . . . . . . . . . (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| أَصْبَحَ (إفعال) إصباحاً | နံနက်ခင်းအချိန်နှင့်ကြုံဆုံခြင်း |
| أَمْسى (إفعال) إمْساءً | ညနေခင်းအချိန်နှင့် ကြုံဆုံခြင်း |

## အခန်း(၄) အဇာန်သံကြားရသောအခါ ဖတ်ရမည့်ဒိုအာနှင့်အကျိုးကျေးဇူး

## (١٣) الحديث الثالث عشر

عَـن عَبدِ اللَّهِ بنِ عَمرِو بنِ العَاصِ( رَضِيَ اللّٰهعَنْهُما) أَنَّهُ سَمِعَ النَّبِيَّ ﷺ يَقُولُ: إِذَا سَـمِـعْـتُـمُ المُؤَذِّنَ ، فَقُوْلُوْا مِثلَ مَا يَقُولُ، ثُمَّ صَلُّوا عَلَيَّ ، فَإِنَّهُ مَنْ صَلَّى عَلَيَّ صَلاةً صَلَّى اللَّهُ عَلَيهِ بِهَا عَشْرًا . ﴿ رواه أبوداود ﴾

---

(١٢) أخرجه أبوداود في كتاب الأدب ،باب مايقول إذا أصبح.

(١٣) أخرجه أبوداود في كتاب الصلاة ، باب مايقول إذا سمع المؤذن.

**အဓိပ္ပါယ်**

ဟဇရသ်အဗ်ဒွလ္လာဟ်ဗင်န်အမ်ရ်ﷺ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ. . အသင်တို့သည် မို့အပ်ဇ်ဇင်န်(အဇာန်ဆိုသည်ကို)ကြားရသောအခါအသင်တို့လည်း မို့အပ်ဇ်ဇင်န်ရွတ်ဆိုသကဲ့သို့ ရွတ်ဆိုပါ။ထို့နောက်ငါကိုယ်တော်မြတ်အပေါ်သို့ ဒရူးဒ်မေတ္တာပို့သပါ။ မည်သူမဆို ငါကိုယ်တော်မြတ်အပေါ်သို့ တစ်ကြိမ် ဒရူးဒ်မေတ္တာပို့သပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူအပေါ်သို့ (၁၀) ကြိမ် ရဟ်မသ်ချပေးတော် မူလေသည်။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားစစ်များ**

| | |
|---|---|
| أَذَّنَ (تفعيل) تأْذِيناً | အဇာန်ဆိုခြင်း၊ ကြေညာခြင်း |
| مُؤَذِّنٌ (ج) مُؤَذِّنُونَ | အဇာန်ဆိုသောသူ |

## (١٤) الحديث الرابع عشر

عَنْ سَعدَ بنِ أَبِي وَقَّاصٍ (رَضِيَ اللّٰهُ عَنْهُ) عَنْ رَسُولِ اللَّهِ ﷺ قَالَ: مَن قَالَ: حِيْنَ يَسْمَعُ الْمُؤَذِّنَ " وَأَنَا أَشْهَدُ أَن لَا إِلَهَ إِلَّا للهُ وَحْدَهُ لَا شَرِيكَ لَهُ وَأَشْهَدُ أَنَّ مُحَمَّدًا عَبدُهُ وَرَسُولُهُ رَضِيتُ بِاللّٰهِ رَبًّا وَبِمُحَمَّدٍ رَسُوْلاً وَبِالإِسلَامِ دِينًا " غُفِرَ لَهُ.

﴿ رواه أبوداود ﴾

**အဓိပ္ပါယ်**

ဇရသ်စအဒ်ဗင်အဘီဝက္ကာ့စ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺက အမိန့်ရှိသည်မှာ. . မည်သူမဆို မို့အပ်ဇ်ဇင်န်၏အာဇန်သံကို ကြားရချိန်တွင် (ဤစာပိုဒ်)ကိုရွတ်ဖတ်ပါက ထိုသူသည် အပြစ်များမှလွတ်ငြိမ်းချမ်းသာခွင့် ရရှိပေမည်။ အလ္လာဟ်အရှင်မြတ်မှအပ အခြားကိုးကွယ်ခံထိုက်သူအလျဉ်းမရှိ၊ ထိုအရှင်နှင့် တုဖက်နိူင်းယှဉ်ခံထိုက်သူဟူ၍လည်းအလျဉ်းမရှိကြောင်းကို ကျွန်တော်မျိုးသက်သေခံပါ၏။ ထို့အပြင် ကျွန်တော်မျိုးသည် အလ္လာဟ်အရှင်မြတ်အား မွေးမြူဖန်ဆင်းစောင့်ရှောက်တော်

---

(١٤) أخرجه أبوداود في كتاب الصلاة ،باب مايقول إذا سمع المؤذن.

မှုသောအရှင်အဖြစ်လည်းကောင်း၊ မိုဟမ္မဒ်ﷺအားရစူလ်တမန်တော်အဖြစ်လည်းကောင်း၊ အစ္စလာမ်သာသနာတော်အား (ဘဝလမ်းညွှန်) သာသနာအဖြစ်လည်းကောင်း ကျေနပ်နှစ်သက်ယုံကြည်လက်ခံပါ၏။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| သက်သေခံခြင်း | شَهِدَ (س) شَهَادَةً |
| မွေးမြူဖန်ဆင်းစောင့်ရှောက်တော်မူသောအရှင်၊ ပိုင်ရှင် | رَبٌّ (ج) أَرْبَابٌ |
| လွတ်ငြိမ်းချမ်းသာခွင့်ပေးခြင်း | غَفَرَ (ض) غَفْراً وغُفْرَانًا |

## (၅) ဝုဒူသန့်စင်ပြီးနောက် ဖတ်ရမည့်ဒုအာနှင့် အကျိုးကျေးဇူး

## (١٥) الحديث الخامس عشر

عَنْ عُمَرَ بنِ الخَطَّابِ (رَضِيَ اللّٰهُ عَنْهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ مَنْ تَوَضَّأَ فَأَحْسَنَ الوُضُوءَ ثُمَّ قَالَ: أَشْهَدُ أَنْ لَا إِلَهَ إِلَّا اللَّهُ وَأَشْهَدُ أَنَّ مُحَمَّدًا عَبْدُهُ وَرَسُولُهُ فُتِحَتْ لَهُ ثَمَانِيَةُ أَبْوَابِ الجَنَّةِ يَدْخُلُ مِنْ أَيِّهَا شَاءَ. ﴿رواه النسائي﴾

**အဓိပ္ပါယ်**

ဟဇရတ်ဥမရ်ဗင်နခတ္တားဗ် ﵁ သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ. . မည်သူမဆို ဝုဒူကောင်းမွန်ကျန၊ သေသပ်စွာပြုလုပ်ပြီးနောက် (ဤဒုအာ) أَشْهَدُ أَن لَا إِلَهَ إِلَّا اللَّهُ وَأَشْهَدُ أَنَّ مُحَمَّدًا عَبدُهُ وَرَسُولُه ကိုရွတ်ဖတ်မည်ဆိုပါက ထိုသူ့အတွက် ဂျန္နသ်သုခဘုံ၏တံခါး(၈)ပေါက်လုံး ပွင့်သွားပေမည်။ ထိုသူသည် မိမိကြိုက်နှစ် သက်ရာတံခါးပေါက်မှ ဝင်ခွင့်ရရှိပေမည်။ (နဆာအီကျမ်း)

---

(١٥)أخرجه النسائى في كتاب الطهارة، باب القول بعد الفراغ من الوضوء.

### ကျက်မှတ်ရန် စကားစုများ

| | |
|---|---|
| أَحْسَنَ (إفعال) إِحْسَاناً | ကောင်းမွန်ကျနစွာပြုလုပ်ခြင်း |
| تَوَضَّأَ (تفعل) تَوَضُّأً | ဝုဇူပြုလုပ်ခြင်း |

## အခန်း (၆) အဝတ်အစား ဝတ်သည့်အခါ ဖတ်ရမည့် ဒုအာ

## (١٦) الحديث السادس عشر

عَنْ أَبِي سَعِيْدٍ الـخُدْرِيِّ (رَضِيَ اللّٰهُعَنْهُ) قَالَ : كَانَ رَسُولُ اللَّهِ ﷺ إِذَا اسْتَجَدَّ ثَوْبًا سَمَّاهُ بِاسْمِهِ ، إِمَّا قَمِيْصًا أَو عِمَامَةً ، ثُمَّ يَقُولُ : اللَّهُمَّ لَكَ الحَمْدُ أَنْتَ كَسَوْتَنِيهِ ، أَسْأَلُكَ مِنْ خَيْرِهِ وَخَيْرِ مَا صُنِعَ لَهُ ، وَأَعُوْذُ بِكَ مِنْ شَرِّهِ وَشَرِّ مَا صُنِعَ لَهُ.

﴿رواه أبوداود﴾

### အဓိပ္ပါယ်

ဟဇရသ်အဗူစအီးဒ် ﷺ သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် အဝတ်အစားအသစ် ဝတ်သောအခါ "အင်္ကျီ (သို့) ခေါင်းပေါင်း" ဟု အမည်တပ်ပြောဆို၍ အောက်ပါဒိုအာကို ရွတ်ဖတ်တော်မူလေသည်။ အိုအရှင်၊ ချီးမွမ်းခြင်းအလုံးစုံ တို့သည် အရှင်မြတ်အတွက်သာဖြစ်ပါသည်။ အရှင်မြတ်သည်သာကျွန်တော်မျိုးအား အဝတ်အစား ဝတ်ဆင်ပေးခြင်းဖြစ်ပါသည်။ ကျွန်တော်မျိုးသည် ထိုအဝတ်အစား၏ ကောင်းခြင်းများနှင့် ထိုအဝတ်အစားအားကောင်းသောနေရာများတွင် အသုံးချနိုင်ရန် အရှင်မြတ်ထံတောင်းခံပါ၏။ ထိုအဝတ်အစား၏ဆိုးကျိုးများနှင့် ထိုအဝတ်အစားအား မကောင်းသောနေရာများတွင်အသုံးမပြုမိစေရန်အတွက်အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။ (အဗူဒါဝူးဒ်ကျမ်း)

### ကျက်မှတ်ရန် စကားစုများ

| | |
|---|---|
| استجّد (استفعال) اِسْتِجْدَاداً | အသစ်ဖြင့်အောင်လုပ်ခြင်း |

---

(١٦) أخرجه أبوداود في كتاب اللباس ، باب مايقول إذا لبس ثوبا جديدا.

| | |
|---|---|
| سَمّي (تفعيل) تسمِيَةً | အမည်ပေးခြင်း |
| قَميص (ج) قُمْصانٌ و أقْمِصَةٌ | အင်္ကျီ |
| عِمَامَةٌ (ج) عَمائِمُ | ခေါင်းပေါင်း |
| شَرٌّ (ج) شُرُوْرٌ | ဆိုးကျိုး၊မကောင်းမှု |
| خَيْرٌ (ج) أخْيارٌ | ကောင်းမှု၊ ကောင်းသောအရာ |

## အခန်း (၇) အိမ်မှထွက်သောအခါ ဖတ်ရန်ဒိုအာ

## (١٧) الحديث السابع عشر

عَن أُمِّ سَلَمَةَ( رَضِيَ اللّٰهُ عَنْهَا) قَالَتْ: مَا خَرَجَ النَّبِيُّ ﷺ مِنْ بَيتِي قَطُّ إِلَّا رَفَعَ طَرفَهُ إِلَى السَّمَاءِ ، فَقَالَ : اَللّٰهُمَّ إِنِّي أَعُوْذُ بِكَ أَنْ أَضِلَّ أَوْ أُضَلَّ أَوْ أَزِلَّ أَوْ أُزَلَّ أَوْ أَظْلَمَ أَوْ أُظْلَمَ أَو أَجْهَلَ أَو يُجْهَلَ عَلَيَّ . ﴿ رواه أبوداود ﴾

### အဓိပ္ပါယ်

ဟဇရသ်အွန်မေ့စလမာ رضي الله عنها သခင်မဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ သည် ကျွန်မ၏အိမ်မှထွက်သောအခါ မိုးကောင်းကင်အားမော့ကြည့်၍(အောက်ပါဒိုအာ) ကိုအမြဲ ရွတ်ဖတ်တော်မူလေသည်။ အိုအရှင်၊ကျွန်တော်မျိုးသည် (အခြားသူကို)လမ်းမှားအောင် လုပ်ခြင်း၊ ကိုယ်တိုင်လမ်းမှားနေခြင်း၊ (အခြားသူကို) ချွတ်ချော်အောင်ပြုလုပ်ခြင်း၊ (သို့) ကိုယ်တိုင်ချွတ်ချော်သွားခြင်း၊ (အခြားသူကို)မတရားပြုခြင်း၊ (သို့)ကိုယ်တိုင်မတရားလုပ်ခံ ရခြင်းနှင့်ကျွန်တော်မျိုးသည် မသိမိုက်မဲသောသူကဲ့သို့ပြုမူခြင်း၊(သို့)တစ်ဦးဦးကကျွန်တော် မျိုးအားမသိမိုက်မဲစွာဆက်ဆံခြင်းလိုက်ခြင်းတို့မှအရှင်မြတ်ထံခိုလှုံပါ၏။ (အဗူဒါဝူးဒ်ကျမ်း)

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| ضَلَّ (ض) ضَلَالَةً | လမ်းမှားသွားခြင်း |
| زَلَّ (ض) زَلَلاً | ချွတ်ချော်ခြင်း |

---

(١٧) أخرجه أبوداود في كتاب الأدب،باب ما يقول الرجل إذا خرج من بيته.

| | |
|---|---|
| ظَلَمَ (ض) ظُلْمًا و مَظْلَمَةً | မတရားပြုခြင်း |
| جَهِلَ (س) جَهْلاً و جَهَالَةً | မသိမိုက်မဲစွာပြုလုပ်ခြင်း |

## အခန်း(၈) လုပ်ငန်းများ လုပ်ဆောင်ရာတွင် ညာဘက်မှ အစပြုခြင်း

## (١٨) الحديث الثامن عشر

عَنْ عَائِشَةَ (رَضِيَ اللّٰهُ عَنْهَا) قَالَتْ : كَانَ النَّبِيُّ ﷺ يُحِبُّ التَّيَمُّنَ فِي طُهُورِهِ وَتَرَجُّلِهِ وَتَنَعُّلِهِ. ﴿ متفق عليه ﴾

**အဓိပ္ပါယ်**

ဟဇရသ်အာအေ့ရှာဟ် ﵂ သခင်မဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် သန့်ရှင်းမှုပြုရာတွင် လည်းကောင်း၊ ခေါင်းဖီးရာတွင် လည်းကောင်း၊ ဖိနပ်စီးရာတွင် လည်းကောင်း ညာဘက်မှ အစပြုခြင်းကို (အလွန်)နှစ်သက်တော်မူပေသည်။

(ဗိုခါရီကျမ်း နှင့် မွစ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| تَرَجَّل (تفعل) تَرَجُّلاً | ခေါင်းဖီးခြင်း |
| تَنَعَّل (تفعل) تَنَعُّلاً | ဖိနပ်ဝတ်ခြင်း |

## (١٩) الحديث التاسع عشر

عَنْ أَبِي هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) أَنَّ رَسُولَ اللّٰهِ ﷺ قَالَ : إِذَا انْتَعَلَ أَحَدُكُمْ فَلْيَبْدَأْ بِاليُمنٰى، وَإِذَا خَلَعَ فَلْيَبْدَأْ بِالشِّمَالِ، وَلْيُنْعِلْهُمَا جَمِيْعًا أَو لِيَخْلَعْهُمَا جَمِيْعًا .

﴿ متفق عليه ﴾

---

(١٨)أخرجه البخاري في كتاب اللباس، باب يبدأ بانتعل اليمنى.

وأخرجه مسلم في كتاب الطهارة،باب التيمن في الطهارة وغيره.

(١٩) أخرجه البخاري فى كتاب اللباس ،باب ينزع نعل اليسرى .

وأخرجه مسلم في كتاب اللباس والزينة ،باب إذا انتعل فليبدأ باليمين.هذا لفظ مسلم.

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟုရိုင်ရာဟ် ﷺ သခင်က ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺက မိန့်တော်မူသည်မှာ. . အသင်တို့သည် ဖိနပ်စီးသောအခါ ညာဘက်မှ အစပြု၍ စီးကြပါ။ ဖိနပ်ချွတ်သောအခါတွင် ဘယ်ဘက်မှ စ၍ချွတ်ကြပါ။ (သို့) နှစ်ဖက်လုံးကို အတူတကွ စီး၍ အတူတကွချွတ်ပါ။ (ဗိုခါရီကျမ်း နှင့် မွစ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| أَنْعَلَ (إفعال) إِنْعَالاً | ဖိနပ်စီးခြင်း |
| خَلَعَ (ف) خَلْعاً | ဖိနပ်ချွတ်ခြင်း |

## အခန် (၉) အိမ်သို့ဝင်သောအခါ ဖတ်ရမည့် ဒိုအာ

## (٢٠) الحديث العشرون

عَـنْ أَبِيْ مَالِكٍ الأَشعَرِيِّ (رَضِيَ اللّٰهعَنْهُ) قَالَ : قَالَ رَسُولُ اللَّهِ ﷺ : إِذَا وَلَجَ الرَّجُلُ فِـيْ بَيْتِـهِ ، فَـلْيَـقُلْ : اللَّهُمَّ إِنِّيْ أَسأَلُكَ خَيْرَ المَوْلِجِ وَخَيْرَ المَخْرَجِ، بِسمِ اللَّهِ وَلَجْنَا وَبِسمِ اللَّهِ خَرَجْنَا وَعَلَى اللَّهِ رَبِّنَا تَوَكَّلْنَا، ثُمَّ لِيُسَلِّمْ عَلَى أَهْلِهِ . ﴿ رواه أبوداود ﴾

**အဓိပ္ပါယ်**

ဟဇရသ်မာလိက်အရှ်အရီ ﷺ သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ က မိန့်တော်မူသည်မှာ. . တစ်ဦးတစ်ယောက်သည် မိမိအိမ်သို့ဝင်သောအခါ (ဤဒိုအာ)ကို ရွတ်ဖတ်ပါ။“ အိုအရှင်၊ ကျွန်တော်မျိုးသည် အရှင်မြတ်၏နာမတော်ဖြင့်သာဝင်ထွက်ခဲ့ခြင်း ဖြစ်ပါ၍ အရှင်မြတ်ထံတော်ပါး၌ ကောင်းသောထွက်ခြင်း၊ ကောင်းသောဝင်ခြင်းကိုသာ တောင်းခံပါ၏။ ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ်ကိုသာ အားကိုးအားထားကြပါ၏” ဟု ရွတ်ဖတ်ပြီး မိမိအိမ်သူအိမ်သားများကို စလာမ်မေတ္တာပို့သပါ။ (အဗူဒါဝူးဒ်ကျမ်း)

---

(٢٠) أخرجه أبوداود في كتاب الأدب، باب مايقول الرجل إذا دخل بيته.

ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| خَرَجَ (ن) خُرُوْجاً | ထွက်ခြင်း |
| وَلَجَ (ض) وُلُوْجاً وَلِجَةً | ဝင်ခြင်း |
| سلَّمَ (تفعيل) تسليماً | စလာမ်မေတ္တာပို့သခြင်း |

## အခန်း (၁၀) ဈေးသို့သွားသောအခါ ဖတ်ရန်ဒိုအာ

## (٢١) الحديث الحادي والعشرون

عَـنْ سَـالِـمِ بـنِ عَبْدِ اللَّهِ بنِ عُمَرَ (رضي اللّٰه عنْهما) أَنَّ رَسُولَ اللَّهِ ﷺ قَالَ: مَنْ دَخَلَ السُّوقَ، فَقَالَ لَا إِلَهَ إِلَّا اللَّهُ وَحْدَهُ لَا شَرِيْكَ لَهُ، لَهُ الْمُلْكُ وَلَهُ الحَمْدُ يُحيِي وَيُـمِيْـتُ وَهُـوَ حَيٌّ لَا يَمُوْتُ بِيَدِهِ الخَيْرُ، وَهُوَ عَلَى كُلِّ شَىءٍ قَدِيْرٌ كَتَبَ اللَّهُ لَهُ أَلْفَ أَلْفِ حَسَنَةٍ وَمَحَا عَنهُ أَلفَ أَلفِ سَيِّئَةٍ وَرَفَعَ لَهُ أَلفَ أَلفِ دَرَجَةٍ.﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရတ်စာလင်မ်ဗင်အဗ်ဒွလ္လာဟ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . မည်သူမဆို ဈေးသွားသောအခါ (ဤဒိုအာ)ကို ရွတ်ဖတ်မည် ဆိုပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူအတွက် ကောင်းမှုကုသိုလ် တစ်သန်း ချီးမြှင့်မည်ဖြစ်ပြီး အပြစ်ပေါင်းတစ်သန်းကို ပလပ်ပေးတော်မူ၍ အဆင့်အတန်းပေါင်း တစ်သန်း မြင့်တင်ပေးမည်။ (ဒိုအာ၏ အဓိပ္ပါယ်မှာ) အလ္လာဟ်အရှင်မြတ်မှအပ အခြားကိုးကွယ်ခံထိုက်သူအလျဉ်းမရှိ။ ထိုအရှင်နှင့်တုဖက်နိုင်းယှဉ်သူဟူ၍လုံးဝမရှိ။ အုပ်ချုပ်မှုအာဏာသည်လည်းကောင်း၊ ချီးမွမ်းထောပနာမှု အလုံးစုံတို့သည်လည်းကောင်း၊ ထိုအရှင်အတွက် သာလျှင်ဖြစ်သည်။ ထိုအရှင်သည် ရှင်စေ၊ သေစေတော် မူသောအရှင်ဖြစ်ပါ၏။ ထိုအရှင်အတွက်သေဆုံးခြင်းအလျဉ်းမရှိပါ။ ထိုအရှင်သည် အမြဲရှင်သန်နေတော်မူသောအရှင်ဖြစ်ပြီး၊ ကောင်းခြင်းတရားအားလုံးသည် ထိုအရှင်၏ လက်ဝယ်၌ သာရှိပါ၏။ထိုအရှင်မြတ်သည် အရာအားလုံးကို တတ်စွမ်းနိုင်တော်မူသော အရှင်ဖြစ်ပါသည်။ (သစ်ရ်မီဇီကျမ်း)

(٢١)أخرجه الترمذي في كتاب الدعوات، باب مايقول إذا دخل السوق.

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| حَسَنَةٌ (ج) حَسَنَاتٌ | ကောင်းမှုကုသိုလ် |
| سَيِّئَةٌ (ج) سَيِّئَاتٌ | မကောင်းမှုဒုစရိုက် |
| محا (ن) مَحْواً | ပယ်ဖျက်ခြင်း |
| رَفَعَ (ف) رَفْعاً | မြင့်တင်ခြင်း၊ မြှောက်ခြင်း |

## အခန်း (၁၁) အချင်းချင်းစလာမ် မေတ္တာပို့သခြင်း

## (٢٢) الحديث الثاني والعشرون

عَنْ أَبِيْ هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) قَالَ:قَالَ رَسُولُ اللَّهِ ﷺ: وَالَّذِيْ نَفسِيْ بِيَدِهِ، لَا تَدْخُلُوا الجَنَّةَ حَتَّى تُؤمِنُوْا، وَلَا تُؤمِنُوْا حَتَّى تَحَابُّوا، أَفَلَا أَدُلُّكُم عَلَى أَمْرٍ إِذَا فَعَلْتُمُوْهُ تَحَابَبْتُم، أَفشُوا السَّلَامَ بَينَكُم. ﴿رواه أبوداود﴾

**အဓိပ္ပါယ်**

ဟဇရတ်အဗူဟိုရိုင်ရာဟ် ﵁ သခင်က ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ က . . ငါ၏အသက်ကို စိုးပိုင်တော်မူသောအရှင်၏ကစမ်၊ အသင်တို့သည် အီမာန်ရှင်များ မဖြစ်သရွေ့ ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရမည် မဟုတ်ပေ။ အသင်တို့သည် အချင်းချင်း မချစ်ခင် သရွေ့ပြည့်ဝသော အီမာန်ရှင်များမဖြစ်နိုင်ပါ။ သို့ဖြစ်ရာ အချင်းချင်းချစ်ခင်လာမည့် နည်းလမ်းတစ်ခုကို ငါကိုယ်တော် မညွှန်ပြရဘူးလားဟု (ကိုယ်တော်ကမိန့်ကြား)၍ " အသင်တို့သည်အချင်းချင်း စလာမ် မေတ္တာပို့သကြပါဟု"မိန့်တော်မူခဲ့သည်။

(အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| تحابَّ /تحابَبَ (تفاعُلا) تحابًّا/تَحابُبًا | အချင်းချင်းချစ်ခင်ခြင်း |
| دَلَّ (ن) دَلَالًا و دَلَالَةً | လမ်းညွှန်ခြင်း |
| أَفْشَىٰ (إفعال) إِفْشَاءً | ဖြန့်ကြက်ခြင်း၊ဖြန့်ချီခြင်း |

(٢٢) أخرجه أبوداود في كتاب الأدب، باب إفشاء السلام.

# (٢٣) الحديث الثالث والعشرون

عَـنْ أَبِـيْ أُمَـامَةَ ( رَضِـيَ اللّٰهعَـنْهُ) قَالَ: قَالَ رَسُوْلُ اللَّهِ ﷺ : إِنَّ أَوْلَى النَّاسِ بِاللَّهِ مَنْ بَدَأَهُم بِالسَّلَامِ ﴿ رواه أبوداود ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူအိုမာမဟ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . ဦးစွာပထမ စလာမ်မေတ္တာပို့သသူသည် အလ္လာဟ်အရှင်မြတ်ထံပါးတွင် အမွန်မြတ်ဆုံးသော ပုဂ္ဂိုလ်ဖြစ်ပေသည်။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားစ်များ**

| | |
|---|---|
| بَدأَ (ف) بَدْءًا وبَدْأَةً | အစပြုခြင်း |

# (٢٤) الحديث الرابع والعشرون

عَن أَنَسٍ ( رَضِيَ اللّٰهعَنْهُ) عَنِ النَّبِيِّ ﷺ : أَنَّهُ كَانَ إِذَا تَكَلَّمَ بِكَلِمَةٍ أَعَادَهَا ثَلَاثًا حَتَّى تُفْهَمَ عَنْهُ ، وَإِذَا أَتَى عَلَى قَوْمٍ فَسَلَّمَ عَلَيْهِم سَلَّمَ عَلَيْهِم ثَلَاثًا ﴿ رواه البخاري ﴾

**အဓိပ္ပါယ်**

ဟဇရသ်အနပ်စ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် စကားပြောတော်မူသည့် အခါစကားတစ်ခွန်းအား သဘောပေါက်သွားသည့်တိုင်အောင်(၃)ကြိမ် (၃)ခါပြောတော်မူလေ့ရှိသည်။ထို့အတူ လူအုပ်စုတစ်ခုထံသို့ရောက်ရှိသောအခါ စလာမ်ပေးရာတွင်လည်း သုံးကြိမ် (၃)ခါ ပေးတော်မူလေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားစ်များ**

| | |
|---|---|
| تكَلَّمَ (تفعل) تكَلُّماً | စကားပြောဆိုခြင်း |
| فَهِمَ (س) فَهْماً | နားလည်သဘောပေါက်ခြင်း |
| أعَاد (إفعال) إعَادةً | ပြန်၍ပြုလုပ်ခြင်း |
| سلَّمَ (تفعيل) تسْلِيْماً | စလာမ်ပေးခြင်း |

(٢٣) أخرجه أبوداود في كتاب الأدب، باب فضل من بدأ بالسلام.

(٢٤) أخرجه البخاري في كتاب العلم ،باب من أعاد الحديث ثلاثا ليفهم عنه.

# (٢٥) الحديث الخامس والعشرون

عَنْ أَبِي هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) عَنْ رَسُولِ اللَّهِ ﷺ أَنَّهُ قَالَ : يُسَلِّمُ الرَّاكِبُ عَلَى المَاشِيْ، وَالمَاشِيْ عَلَى القَاعِدِ، وَالقَلِيْلُ عَلَى الكَثِيْرِ . ﴿متفق عليه﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ်ؓ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ. . " အစီးအနင်းအပေါ်၌ ရှိနေသူသည် လမ်းလျှောက်နေသူအား စလာမ်ပေးရမည်။ လမ်းလျှောက်နေသူသည် ထိုင်နေသူအား စလာမ်ပေးရမည်။ လူနည်းစုသည် လူများစု အား စလာမ်ပေးရမည်။ (ဗိုခါရီကျမ်း နှင့် မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| စီးနင်းခြင်း | رَكِبَ (س) رَكْباً و رُكُوْباً |
| လမ်းလျှောက်ခြင်း | مَشَى (ض) مَشْياً |
| ထိုင်ခြင်း | قَعَدَ (ن) قُعُوْداً |
| နည်းပါးခြင်း | قَلِيْلٌ (ج) قَلِيْلُوْنَ و قَلاَئِلُ |
| များပြားခြင်း | كَثِيْرٌ (ج) كَثِيْرُوْنَ |

# (٢٦) الحديث السادس والعشرون

عَن أَبِيْ هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) عَنْ رَسُولِ اللَّهِ ﷺ أَنَّهُ قَال: إِذَا لَقِيَ أَحَدُكُمْ أَخَاهُ فَلْيُسَلِّمْ عَلَيهِ، فَإِنْ حَالَتْ بَينَهُمَا شَجَرَةٌ أَو جِدَارٌ أَو حَجَرٌ، ثُمَّ لَقِيَهُ فَلْيُسَلِّمْ عَلَيهِ أَيضًا. ﴿رواه أبوداود﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ؓ သခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺ က

---

(٢٥) أخرجه البخاري في كتاب الاستئذان ،باب تسليم الماشي على القاعد .
و أخرجه مسلم فى كتاب السلام ،باب يسلم الراكب على الماشي.
(٢٦) أخرجه أبوداود في كتاب الأدب، باب في الرجل يفارق الرجل ثم يلقاه.......

မိန့်တော်မူသည်မှာ. အသင်တို့တစ်ဦးဦးသည် မိမိနောင်တော်အား တွေ့ဆုံသောအခါစလာမ် ပေးပါ။ထိုနောက်သစ်ပင်၊နံရံ၊ကျောက်တုံး၊ (အစရှိသည်တို့)ဖြင့် ကွယ်ပြီးနောက် တဖန် ပြန်လည်တွေ့ဆုံပါက ထပ်၍စလာမ်ပေးကြပါ။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| أَخٌ (ج) إِخْوَةٌ | ညီနောင် |
| شَجَرَةٌ (ج) أَشْجَارٌ | သစ်ပင် |
| جِدَارٌ (ج) جُدُرٌ وجُدْرَانٌ | နံရံ |
| حَجَرٌ (ج) أَحْجَارٌ | ကျောက်တုံး ၊ ကျောက်ခဲ |

## (٢٧) الحديث السابع والعشرون

عَن أَبِيْ هريرةَ ( رَضِيَ اللّٰهُ عَنْهُ) قَالَ: قَالَ رَسُولُ اللّٰهِ ﷺ: إِذَا انتَهَى أَحَدُكُمْ إِلَى المَجْلِسِ فَلْيُسَلِّمْ، فَإِذَا أَرَادَ أَنْ يَقُوْمَ فَلْيُسَلِّمْ، فَلَيْسَتِ الأُولَى بِأَحَقَّ مِنَ الآخِرَةِ. ﴿ رواه أبوداود ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ؓ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. သင်တို့တစ်ဦးဦးသည် ထိုင်ဝိုင်းတစ်ခုသို့ ရောက်သောအခါ စလာမ်ပေးကြပါ။ ထိုင်ဝိုင်းမှ ပြန်ထလာသောအခါတွင်လည်း (ထပ်၍)စလာမ်ပေးပါ။ပထမအကြိမ်ပေးသော စလာမ်သည် ဒုတိယအကြိမ်ပေးသော စလာမ်နှင့်အတူတူပင်ဖြစ်သည်။(ဆိုလိုသည်မှာ ပထမအကြိမ်ပေးရန် ဝတ္တရားရှိသကဲ့သို့ ဒုတိယအကြိမ်ပေးရန်လည်း ဝတ္တရားရှိ၏)။

(အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| اِنْتَهَى (افتعال) اِنْتِهَاءً | ရောက်ရှိခြင်း၊အဆုံးသို့ရောက်ခြင်း |
| مَجْلِسٌ (ج) مَجَالِسُ | ထိုင်ဝိုင်း |
| آخِرَةٌ (ج) آخِرٌ و أَوَاخِرُ | နောက်ဆုံး |

(٢٧) أخرجه أبوداود في كتاب الأدب، باب في السلام إذا قام من المجلس.

## အခန်း (၁၂) လက်ဆွဲနှုတ်ဆက်ခြင်း အကျိုးကျေးဇူး

## (٢٨) الحديث الثامن والعشرون

عَنِ البَرَاءِ بنِ عَازِبٍ (رَضِيَ اللّٰهعَنْهُ) قَالَ : قَالَ رَسُولُ اللَّهِ ﷺ : إِذَا التَقَى المُسلِمَانِ فَتَصَافَحَا، وَحَمِدَا اللَّهَ عَزَّ وَجَلَّ ، وَاسْتَغفَرَاهُ غُفِرَ لَهُمَا . ﴿ رواه أبو داود ﴾

**အဓိပ္ပါယ်**

ဟဇရသ်ဗရားဗင်န်အာဇေဗ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺမိန့်တော်မူသည်မှာ. မွတ်စ်လင်မ်နှစ်ဦးသည် တွေ့ဆုံသည့်အခါလက်စွဲနှုတ်ဆက်ကြမည်။ထိုနောက် အလ္လာဟ်အရှင်မြတ်အားချီးမွမ်းထောပမူပြု၍ အရှင်မြတ်ထံလွတ်ငြိမ်းချမ်းသာ ခွင့်တောင်းခံကြပါက ထိုသူနှစ်ဦးသည်လွတ်ငြိမ်းချမ်းသာခွင့်ရရှိပေမည်။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| صَافَحَ (مفاعلة) مُصَافَحَةً | လက်ဆွဲနှုတ်ဆက်ခြင်း |
| التقى (افتعال) الْتِقَاءً | တွေ့ဆုံခြင်း |

## အခန်း (၁၃) နှာချေသောအခါ ဖတ်ရမည့်ဒိုအာ

## (٢٩) الحديث التاسع والعشرون

عَن أَبِي هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) عَنِ النَّبِيِّ ﷺ قَالَ: إِذَا عَطَسَ أَحَدُكُمْ فَلْيَقُلِ الحَمدُ لِلَّهِ ـ وَلْيَقُلْ لَهُ أَخُوهُ أَو صَاحِبُهُ يَرْحَمُكَ اللَّهُ ـ فَإِذَا قَالَ لَهُ يَرْحَمُكَ اللَّهُ ـ فَلْيَقُلْ" يَهدِيْكُمُ اللَّهُ وَيُصْلِحُ بَالَكُم ". ﴿ رواه البخاري ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺမိန့်တော်မူသည်မှာ. အသင်တို့အနက် မည်သူမဆို နှာချေသည့်အခါ الحَمدُ لِلَّهِ ဖတ်ပါ။

---

(٢٨) أخرجه أبو داود في كتاب الأدب ، باب في المصافحة.

(٢٩) أخرجه البخاري في كتاب الأدب .باب إذا عطس كيف يشمت.

ထို့သူအတွက်(အနီးအနားရှိ) နောင်တော်မှ يَـرحَـمُكَ اللّـَـهُ ဆိုပေးပါ။ မိမိနောင်တော်မှ يَرحَمُكَ اللّٰهُ ဖတ်ပါက နှာချေသူသည် يَهدِيكُمُ اللَّهُ وَيُصلِحُ بَالَكُم ဆိုရမည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားစုများ**

| | |
|---|---|
| هَدَى (ض) هَدْياً | လမ်းမှန်ပြသခြင်း |
| أَصْلَحَ (إفعال) إِصْلاَحاً | ပြုပြင်ပေးခြင်း |
| بَالٌ | စိတ် ၊ အတွေး ၊ အာရုံ |
| عَطَسَ (ض) عَطْساً و عُطَاساً | နှာချေခြင်း |
| شَمَّتَ (تفعيل) تشْمِيْتاً | يَرحَمُكَ اللّٰه ဖတ်ခြင်း |

## အခန်း (၁၄) မွတ်စ်လင်မ် တစ်ဦး၏ ဝတ္တရား

## (٣٠) الحديث الثلاثون

عَـن أَبِـيْ هُـرَيـرَةَ (رَضِـيَ اللّٰهعَـنْهُ) قَالَ: سَمِعْتُ رَسُولَ اللَّهِ ﷺ يَقُولُ: حَقُّ الـمُسْـلِمِ عَلَى المُسْلِمِ خَمسٌ، رَدُّ السَّلَامِ ، وَعِيَادَةُ المَرِيْضِ، وَاتِّبَاعُ الجَنَائِزِ ، وَإِجَابَةُ الدَّعْوَةِ، وَتَشْمِيْتُ العَاطِسِ. ﴿متفق عليه﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ. မွတ်စ်လင်မ်တစ်ဦးသည် အခြားမွတ်စ်လင်မ်ညီနောင် တစ်ဦးအပေါ်၌ ဝတ္တရား (၅)ခု ရရှိပေမည်။ (၄င်းဝတ္တရားတို့မှာ) ၁။ စလာမ်ပြန်ခြင်း၊ ၂။လူမမာမေးမြန်းခြင်း၊ ၃။သေဆုံးသည့်အခါ လိုက်လံပို့ဆောင်ခြင်း၊၄။ဖိတ်ခေါ်မှုကိုလက်ခံခြင်း၊နှာချေသောအခါ يَرحَمُكَ اللّٰهُ ဟုအဖြေပေးခြင်းတို့ဖြစ်ပါသည်။

(ဗိုခါရီကျမ်းနှင့်မွစ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားစုများ**

| | |
|---|---|
| عَاد (ن) عَوْدًا وعِيَادَةً | သွားရောက်ကြည့်ရှုမေးမြန်းခြင်း |

---

(٣١) أخرجه البخاري في كتاب الجنائز، باب الأمر باتباع الجنائز،
و أخرجه مسلم في كتاب السلام ،باب حق المسلم للمسلم رد السلام. وهذا لفظ البخاري.

| | |
|---|---|
| أَجَابَ (إفعال) إِجَابَةً | အဖြေပေးခြင်း |

## အခန်း (၁၅) လူမမာ မေးမြန်းရာတွင် ဖတ်ရမည့်ဒိုအာ

## (٣١) الحديث الحادي والثلاثون

عَنْ عَائِشَةَ ( رَضِيَ اللّٰهعَنْهَا)قَالَتْ: أَنَّ رَسُولَ اللَّهِ ﷺ كَانَ إِذَا أَتَى مَرِيْضًا، أَو أُتِيَ بِهِ، قَالَ : "أَذْهِبِ البَأْسَ رَبَّ النَّاسِ ، اِشْفِ وَأَنتَ الشَّافِي لاَ شِفَاءَ إِلَّا شِفَاؤُكَ شِفَاءً لاَ يُغَادِرُ سَقَمًا ". ﴿ متفق عليه﴾

**အဓိပ္ပါယ်**

ဟဇရသ်အာအေ့ရှာဟ်ﷺသခင်မဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် ရောဂါသည်တစ်ဦးဦးအား သွားရောက်မေးမြန်းသောအခါ (သို့) ရောဂါသည်တစ်ဦးဦးသည် တမန်တော်မြတ် ﷺထံတော်ပါးသို့ရောက်ရှိလာသောအခါ တမန်တော်မြတ်သည် (ဤဒိုအာ)ကို ရွတ်ဖတ်တော်မူလေ့ရှိသည်။ဒိုအာ၏ အဓိပ္ပါယ်မှာ“အို လူသားအားလုံး၏ မွေးမြူဖန်ဆင်းတော်မူသောအရှင်၊ နာကျင်ခံစားမှုများကိုပပျောက် အောင်ပြုလုပ်ပေးတော်မူပါ။အရှင်မြတ်သည် ရောဂါအပေါင်းအား ပျောက်ကင်းဝေးကွာစေတော်မူသောအရှင်ဖြစ်သည့်အလျောက် (ရောဂါများမှ) ပျောက်ကင်းမှု ချီးမြင့်ပေးပါ။ အရှင်မြတ်၏ ပျောက်ကင်းစေမှုသာလျှင် ရောဂါအလုံးစုံကို အမြစ်ပါမကျန် ချုပ်ငြိမ်းပျောက်ကင်းစေပါ၏။ အခြားမည်သည့်အရာကမျှ ပျောက်ကင်းမှုကို မပေးနိုင်ပါ။

(ဗိုခါရီကျမ်းနှင့်မွစ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| شَفَى (ض) شِفَاءً | ပျောက်ကင်းအောင်ပြုလုပ်ပေးခြင်း |
| غَادَرَ (مفاعلة) مُغَادَرَةً | ချန်လှပ်ထားခြင်း၊ ကျော်သွားခြင်း |
| سَقُمَ (ك) سُقْماً وسَقَماً وسَقَاماً | နာမကျန်းဖြစ်ခြင်း |

(٣١) أخرجه البخاري في كتاب المرضى ،باب دعاء العائد للمريض. وأخرجه مسلم في كتاب السلام،باب استحباب رقية المريض.

| | |
|---|---|
| ဝေးကွာအောင်ပြုလုပ်ခြင်း၊ပပျောက်စေခြင်း | أَذْهَبَ (إفعال) إذْهاباً (ب) |

## အခန်း (၁၆) အနာတရ ဖြစ်သောအခါ ဖတ်ရမည့်ဒိုအာ

## (٣٢) الحديث الثاني والثلاثون

عَن عَائِشَةَ ( رَضِيَ اللّٰهُعَنْهَا) قَالَتْ: أَنَّ رَسُولَ اللَّهِ ﷺ كَانَ إِذَا اشتَكَى الإِنسَانُ الشَّيءَ مِنْهُ أَو كَانَتْ بِهِ قَرْحَةٌ أَو جَرْحٌ قَالَ النَّبِيُّ ﷺ بِإِصْبَعِهِ هَكَذَا، ـوَوَضَعَ سُفيَانُ سَبَّابَتَهُ بِالأَرْضِ ثُمَّ رَفَعَهَا ـ " بِاسْمِ اللَّهِ تُرْبَةُ أَرْضِنَا بِرِيْقَةِ بَعْضِنَا لِيُشفَى بِهِ سَقِيمُنَا بِإِذْنِ رَبِّنَا " . ﴿ متفق عليه ﴾

### အဓိပ္ပါယ်

ဟဇရသ်အာအေ့ရှာဟ်ﷺသခင်မဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ၏ထံတော်ပါးတွင် လူတစ်ဦးသည် ဒဏ်ရာ(သို့)နာကျင်မှုတစ်ခုခု ခံစားရ၍ လျှောက်ထားလာသောအခါ တမန်တော်မြတ်သည် (နာကျင်နေသောနေရာအား) မိမိလက်ချောင်းဖြင့် တင်၍ (ဤဒိုအာကို) ရွတ်ဖတ်ပေးတော်မူလေ့ရှိသည်။ (ဟဇရသ်စွဖ်ယာန်ﷺသခင်သည် မိမိလက်ညိုးအား မြေကြီးပေါ်ထားပြီး ပြန်လည်မယူ၍(ကိုယ်တော်ဖတ်ရွတ်သည့်ဤဒိုအာအားရွတ်ဖတ်ပြတော်မူခဲ့သည်။)ဒိုအာ၏အဓိပ္ပါယ်မှာ-အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ၏။ ကျွန်ုပ်တို့၏မြေကြီးအား ကျွန်ုပ်တို့တံတွေးဖြင့် (ပေါင်းစပ်၍) ကျွန်ုပ်တို့၏ရောဂါသည်အား အရှင်မြတ်၏ အမိန့်တော်ဖြင့် သက်သာပျောက်ကင်းစင်တော်မူပါ။

(ဗိုခါရီကျမ်းနှင့် မွစ်လင်မ်ကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| ညည်းညူသည်။ တိုင်းတန်းသည်။ | اِشْتَكَىٰ (افتعال) اشْتِكَاءً |
| ဒဏ်ရာဖြစ်စေခြင်း၊အနာတရဖြစ်စေခြင်း | قَرَحَ (ف) قَرْحاً |
| ဒဏ်ရာဖြစ်စေခြင်း | جَرَحَ (ف) جَرْحاً |

(٣٢) أخرجه البخاري في كتاب الطب،باب رقية النبي ﷺ. وأخرجه مسلم في كتاب السلام، باب استحباب الرقية من العين والنملة والحمة والنظرة.وهذا لفظ مسلم.

| | |
|---|---|
| رِيْقَةٌ (ج) أَرْيَاقٌ | တံတွေး၊ အာရည် |

## (٣٣) الحديث الثالث والثلاثون

عَـن عُثْمَانَ بن أَبِى العَاصِ الثَّقَفِيِّ (رَضِيَ اللّٰهُعَنْهُ) أَنَّهُ شَكَا إِلَى رَسُولِ اللَّهِ ﷺ وَجَعًا يَجِدُهُ فِي جَسَدِهِ مُنْذُ أَسْلَمَ- فَقَالَ لَهُ رَسُولُ اللَّهِ ﷺ : ضَعْ يَدَكَ عَلَى الَّذِي تَأَلَّمَ مِنْ جَسَدِكَ وَقُلْ بِاسمِ اللَّهِ- ثَلَاثًا- وَقُلْ سَبعَ مَرَّاتٍ، أَعُوذُ بِاللَّهِ وَقُدْرَتِهِ مِن شَرِّ مَا أَجِدُ وَأُحَاذِرُ. ﴿ رواه مسلم ﴾

### အဓိပ္ပါယ်

ဟဇရသ်အွစ်မာန်းဗင်အဗေလ်အားစ်ﷺသခင်သည် တမန်တော်မြတ်ﷺအား မိမိကိုယ်ခန္ဓာတွင်ခံစားနေရသောနာကျင်မှုဝေဒနာကို တင်ပြသောအခါ တမန်တော်မြတ် မိန့်တော်သည်မှာ. . အသင်သည်မိမိကိုယ်ခန္ဓာတွင် နာကျင်နေသောနေရာ၌ လက်တင်၍ ဗိစ်မစ်လ္လာဟ် (၃) ကြိမ်ဖတ်ပါ။ ထိုနောက် (ဤဒိုအာကို) (၇)ကြိမ်ဖတ်ပါ။ ဒိုအာ၏ အဓိပ္ပါယ်မှာ"ကျွန်တော်မျိုးသည် မိမိခံစားနေရသောအရာနှင့် စိုးရိမ်ကြောက်ရွံ့နေသော အရာတို့၏ဆိုးကျိုးမှအရှင်မြတ် ၏တန်ခိုးတော်ဖြင့်လည်းကောင်း၊ အရှင်မြတ်ထံတော်ပါး သို့ခိုလှုံပါ၏။ (မွစ်လင်မ်ကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| تိုင်တန်းခြင်း | شكا (ن) شَكْوًا و شِكَايَةً |
| နာကျင်ခြင်း | وَجِعَ (س) وَجَعاً |
| ဝေဒနာခံစားနေရခြင်း | تَأَلَّمَ (تفعل) تَأَلُّماً |
| စိုးရိမ်ကြောင့်ကြခြင်း | حاذَرَ (مفاعلة) مُحاذرةً |

---

(٣٣) أخرجه مسلم في كتاب السلام،باب استحباب وضع يده على موضع الألم مع الدعاء.

## အခန်း (၁၇) ကြာသာပတေးနေ့၌ ခရီးထွက်ခြင်း

## (٣٤) الحديث الرابع والثلاثون

عَـن عَبدِ الرَّحمَنِ بنِ كَعبِ بنِ مَالِكٍ عَن أَبِيهِ (رَضِيَ اللّٰهعَنْهُ) أَنَّ النَّبِيَّ ﷺ خَرَجَ يَوْمَ الخَمِيسِ فِيْ غَزْوَةِ تبُوك، وَكَانَ يُحِبُّ أَن يَخرُجَ يوم الخَمِيسِ.

﴿أخرجه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗ်ဒွရ်ရဟ်မားန်ဗင်န်ကအဗ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺ သည် သဗူးက်စစ်ပွဲ ဆင်နွဲရန် ကြာသာပတေးနေ့တွင် စတင်ထွက်ခွာတော်မူခဲ့သည်။ တမန်တော်မြတ်ﷺသည် ကြာသာပတေးနေ့တွင် (ခရီးထွက်ခြင်း) အားနှစ်သက်တော်မူလေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားဆက်များ**

| | |
|---|---|
| غَزْوَةٌ (ج) غَزَوَاتٌ | စစ်ပွဲ |

## (٣٥) الحديث الخامس والثلاثون

عَـن أَبِـيْ سَعِيـدٍ الخُدْرِيِّ أَنَّ رَسُولَ اللّـهِ ﷺ قَـالَ: إِذَا خَـرَجَ ثَلَاثَةٌ فِـيْ سَفَرٍ فَلْيُؤَمِّرُوا أَحَدَهُمْ. ﴿رواه أبوداود﴾

**အဓိပ္ပါယ်**

အဗူစအီးဒ်ခွ္ဒရီ ﷺ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . (အသင်တို့)သုံးဦးခရီးသွားပါက (အသင်တို့အနက်) တစ်ဦးဦးအား ခေါင်းဆောင်အဖြစ် ခန့်အပ်ကြပါ။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားဆက်များ**

| | |
|---|---|
| أَمَّرَ (فعّل) تَأْمِيْرًا | ခေါင်းဆောင်ခန့်အပ်ခြင်း |

---

(٣٤) أخرجه البخاري في كتاب الجهاد، باب من أحب الخروج يوم الخميس.

(٣٥) أخرجه أبوداود في كتاب الجهاد، باب في القوو يسافرون يؤمّرون أحدهم.

## (٣٦) الحديث السادس والثلاثون

عَـنْ أَبِـيْ هُـرَيـرَةَ ( رَضِـيَ اللّٰهعَـنْـهُ) قَالَ قَالَ رَسُولُ اللَّـهِ ﷺ ثَلَاثُ دَعَوَاتٍ مُستَجَابَاتٌ لَا شَكَّ فِيهِنَّ، دَعوَةُ المَظْلُوْمِ وَدَعْوَةُ المُسَافِرِ وَدَعْوَةُ الوَالِدِ عَلَى وَلَدِهِ .

﴿ رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . သုံးခုသောဒိုအာသည် အရှင်မြတ်ထံတော်ပါးတွင်သံသယ မရှိလက်ခံခြင်းခံရပေမည်။ (၄င်းဒိုအာများ)မှာ ညှင်းပန်းနှိပ်စက်ခြင်းခံရသူ၏ဒိုအာ၊ ခရီးသည်၏ဒိုအာနှင့် သားသမီးများအတွက် ဖခင်၏ဒိုအာတို့ဖြစ်ပေသည်။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် စကားစုများ**

| | |
|---|---|
| اسْتَجَابَ (استفعال) اسْتجابةً | လက်ခံသဘောတူခြင်း |
| وَلَدٌ (ج) أَوْلَادٌ | ကလေး၊သားသမီး |
| مُسافِرٌ (ج) مُسافِرُوْنَ | ခရီးသည် |
| شَكَّ (ن) شَكًّا | သံသယဖြစ်ခြင်း |

## (٣٧) الحديث السابع والثلاثون

عَنْ عَلِي الأَزدِيِّ أَنَّ ابنَ عُمَرَ ( رَضِيَ اللّٰهعَنْهُما) عَلَّمَهُ أَنَّ رَسُولَ اللَّهِ ﷺ كَانَ إِذَا استَوَى عَـلَـى بَعِيْرِهِ خَارِجًا إِلَى سَفَرٍ، كَبَّرَ ثَلَاثًا، ثُمَّ قَالَ: سُبحَانَ الَّذِيْ سَخَّرَ لَنَا هَـذَا وَمَـا كُـنَّا لَهُ مُقْرِنِينَ وَإِنَّا إِلَى رَبِّنَا لَمُنْقَلِبُونَ، اللَّهُمَّ إِنَّا نَسأَلُكَ فِيْ سَفَرِنَا هَذَا ، البِرَّ وَالتَّـقْـوَى، وَمِـنَ العَمَلِ مَا تَرْضَى، اللَّهُمَّ هَوِّنْ عَلَيْنَا سَفَرَنَا هَذَا، وَاطْوِ عَنَّا بُعْدَهُ، اللَّهُمَّ أَنْـتَ الصَّاحِبُ فِيْ السَّفَرِ، وَالخَلِيْفَةُ فِيْ الأَهْلِ ، اللَّهُمَّ إِنِّي أَعُوْذُ بِكَ مِن وَعثَاءِ السَّفَرِ،

---

(٣٦) أخرجه الترمذي في كتاب البر والصلة، باب ماجاء في دعوة الوالدين.

وَكَآبَةِ الْمَنْظَرِ، وَسُوءِ الْمُنْقَلَبِ فِي الْمَالِ وَالأَهلِ ـ وَإِذَا رَجَعَ قَالَهُنَّ ـ وَزَادَ فِيهِنَّ آئِبُونَ تَائِبُونَ عَابِدُونَ لِرَبِّنَا حَامِدُونَ. ﴿ رواه مسلم وأبوداود ﴾

**အဓိပ္ပါယ်**

ဟဇရတ်အလီအလ်အဇ်ဒီသခင်အား ဟဇရတ်အေ့ဗ်နေ့အိုမရ်ﷺသခင်ကသင်ပေးသည်မှာ. တမန်တော်မြတ်ﷺသည် ခရီးထွက်ရန်အတွက် မိမိကုလားအုတ် ပေါ်တွင်ထိုင်လိုက်သောအခါ သက်ဗီးရ် (၃)ကြိမ်ရွတ်ဆိုတော်မူသည်။ ထို့နောက်(အောက်ပါဒိုအာကို)တောင်းတော်မူ၏။ ကျွန်တော်မျိုးတို့အဖို့ ဤအစီးအနင်းကို နိုင်နင်းစေတော်မူခဲ့သောအရှင်မြတ်သည် စင်ကြယ်သန့်ရှင်းတော်မူပါ၏။ ကျွန်တော်မျိုးတို့သည် ဤအစီးအနင်းကို နိုင်နင်းကြသူများမဟုတ်ကြပါ။ ထို့အပြင်ကျွန်တော်မျိုးတို့သည် မိမိတို့အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်မြတ်ထံသို့ အမှန်ပင် ပြန်သွားကြရမည့်သူများ ဖြစ်ပါသည်။ အိုအရှင်၊ ကျွန်တော်မျိုးတို့၏ ဤခရီးစဉ်တွင် ကောင်းခြင်းတရားများ၊ သက်ဝါတရားနှင့် အရှင်မြတ်နှစ်သက်တော်မူသော လုပ်ရပ်များကို အရှင်မြတ်ထံတော်ပါး၌သာ တောင်းခံပါ၏။ အိုအရှင်၊ ကျွန်တော်မျိုးတို့၏ဤခရီးစဉ်အား တိုတောင်းစေတော်မူပါ။ အိုအရှင်၊ (ကျွန်တော်မျိုးတို့၏)ခရီးဖော်နှင့်၊ (ကျွန်တော်မျိုးတို့၏) အိမ်သူအိမ်သားများကို စောင့်ရှောက်ပေးသူမှာ အရှင်မြတ်သာလျှင်ဖြစ်ပါ၏။ အိုအရှင်၊ ကျွန်တော်မျိုးတို့သည် ခရီး၏ပင်ပန်းမှုများမှလည်းကောင်း၊ ဝမ်းနည်းဖွယ်ရာမြင်ကွင်းများမှလည်းကောင်း၊ ဥစ္စာပစ္စည်းနှင့် အိမ်သူအိမ်သားများတွင် စိတ်မချမ်းသာစရာအဖြစ်ဆိုးများမှ လည်းကောင်း အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။

တမန်တော်မြတ်ﷺသည် ခရီးမှပြန်လာသောအခါတွင်လည်း အထက်ပါဒိုအာများကို တောင်းတော်မူ၍ ဤဒိုအာကိုလည်း ဖတ်တော်မူလေသည်။ “ကျွန်တော်မျိုးတို့သည် သောင်ဗဟ်ပြုလုပ်သူများအဖြစ်နှင့်လည်းကောင်း၊ ခဝပ်ဆည်းကပ်သူများအဖြစ်နှင့်လည်းကောင်း၊ မိမိတို့၏မွေးမြူဖန်ဆင်းတော်မူသောအရှင်မြတ်အား ချီးမွမ်းထောပနာပြုသောသူများအဖြစ်နှင့်လည်းကောင်း ပြန်လှည့်လာကြပါ၏။ (မွတ်စ်လင်မ်ကျမ်းနှင့်အဗူဒါဝူးဒ်ကျမ်း)

---

(٣٧) أخرجه مسلم في كتاب الحج، باب مايقول إذا ركب سفر الحج وغيره. وأخرجه أبوداود في كتاب الجهاد، باب ما يقول الرجل إذا سافر.

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| سخَّر (تفعيل) تَسْخِيْراً | နိုင်နင်းစေခြင်း၊ထိန်းချုပ်ခြင်း |
| كبَّر (تفعيل) تكبيْراً | သက်ဗီးရ်ရွတ်ဆိုခြင်း |
| أقْرن (إفعال) إقْراناً | ချိတ်ဆက်ခြင်း၊ ချည်နှောင်ခြင်း |
| اِسْتَوٰى (افتعال) اِسْتِواءً (على) | ထိုင်ခြင်း၊ အခြေချခြင်း |
| بَعِيْرٌ (ج) أَبَاعِرُ وأَباعِيْرُ | အစီးနင်း၊ကုလားအုတ် |
| هوَّنَ (تفعيل) تَهْوِينًا | လွယ်ကူအောင်ပြုလုပ်ပေးခြင်း |
| طَوٰى (ض) طَيًّا (عن) | ခေါက်ခြင်း၊တိုတောင်းအောင်ပြုလုပ်ခြင်း |
| اِنْقَلب (انفعال) انقلابا | နောက်ကြောင်းပြန်လှည့်ခြင်း |
| خَلِيْفَةٌ (ج) خُلَفَاءُ | ကိုယ်စားလှယ်၊အရိုက်အရာဆက်ခံသူ |
| كئِبَ (س) كَأْبَةً وكآبَةً | ပူဆွေးသောကရောက်ခြင်း |
| وَعْثَاءُ | ဒုက္ခ |
| تَاب (ن) تَوْبَةً | အမှားဝန်ချတောင်းပန်ခြင်း |

## (٣٨) الحديث الثامن والثلاثون

عَـنْ خَـولَةَ بِـنْـتِ حَكِيمٍ السُّلَمِيَّةِ (رَضِيَ اللّٰهُعَنُهَا) تَقُولُ: سَمِعتُ رَسُولَ اللَّهِ ﷺ يَقُولُ: مَن نَزَلَ مَنْزِلاً ثُمَّ قَالَ: " أَعُوذُ بِكَلِمَاتِ اللَّهِ التَّامَّاتِ مِن شَرِّ مَا خَلَقَ "- لَم يَضُرَّهُ شَىءٌ حَتَّى يَرْتَحِلَ مِن مَنْزِلِهِ ذَلِكَ.﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရတ်ခေါင်ဝ်လာဟ်ﷺသခင်မကဆင့်ပြန်သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ. . မည်သူမဆိုနေရာတစ်ခုတွင် စခန်းချသောအချိန်၌

(٣٨)أخرجه مسلم في كتاب الذكر والدعاء والتوبة، باب في التعوذ من سوء القضاء ودرك الشقاء

ဤဒိုအာကို ရွတ်ဖတ်မည်ဆိုပါက ထိုနေရာမှပြန်လည်ထွက်ခွာသည့်အချိန်ထိ မည်သည့်အရာကမျှ ထိုသူကို ဒုက္ခပေးနိုင်လိမ့်မည်မဟုတ်ပေ။ ဒိုအာ၏အဓိပ္ပါယ်မှာ "ကျွန်တော်မျိုးသည် အရှင်မြတ်၏ပြည့်ဝလှသော ကလေမာတော်များဖြင့် အရှင်မြတ်ဖန်ဆင်းထားသောအရာများ၏ဆိုးကျိုးမှ အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။" ( မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| ဒုက္ခပေးခြင်း၊ ဆိုးကျိုးဖြစ်စေခြင်း | ضَرَّ (ن) ضَرًّا |
| ထွက်ခွာခြင်း | ارْتَحَل (افتعال) ارتحالا |
| နေရာ၊ဂေဟာ၊စခန်း | مَنْزِلٌ (ج) مَنَازِلُ |

## (٣٩) الحديث التاسع والثلاثون

عَـنْ عَبـدِ اللَّهِ بنِ عُمَرَ ( رَضِيَ اللّٰهعَنْهُمَا) قَالَ: كَانَ رَسُولُ اللَّهِ ﷺ إِذَا سَافَرَ فَأَقْبَلَ اللَّيلُ، قَالَ: يَا أَرضُ رَبِّيْ وَرَبُّكِ اللَّه ، أَعُوذُ بِاللَّهِ مِن شَرِّكِ وَشَرِّ مَا فِيكِ، وَشَرِّ مَا خُـلِـقَ فِيْكِ ، وَمِـن شَـرِّ مَـا يَـدِبُّ عَـلَيكِ، وَأَعُـوْذُ بِـاللَّـهِ مِن أَسَدٍ وَأَسْوَدَ وَمِنَ الحَيَّةِ وَالعَقْرَبِ، وَمِنْ سَاكِنِ البَلَدِ ، وَمِنْ وَالِدٍ وَمَا وَلَدَ. ﴿ رواه أبوداود ﴾

**အဓိပ္ပါယ်**

ဟဇရသ် အဗ်ဒွလ္လာဟ်ဗင်န် အိုမရ်(ရ.ဇိ)သခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်(ﷺ)သည် ခရီးသွားချိန်တွင် ညအခါရောက်ရှိလာသောအခါ (ဤဒိုအာကို) ရွတ်ဆိုတော်မူလေ့ရှိသည်။"အိုမြေကြီး၊ ကျွန်တော်၏အရှင်နှင့် အသင်၏အရှင်သည် အလ္လာဟ်အရှင်မြတ်ပင်ဖြစ်ပေသည်။ ကျွန်တော်မျိုးသည် အသင်မြေကြီး၏မကောင်းမှုမှလည်းကောင်း၊ အသင်မြေကြီးတွင်ရှိနေသောမကောင်းမှုမှလည်းကောင်း၊အသင်မြေကြီးထဲတွင်ဖန်ဆင်းခြင်းခံရသောအရာများ၏ မကောင်းမှုမှလည်းကောင်း၊အသင်မြေကြီးပေါ်တွင် တွားသွားလျှက်ရှိသော(သတ္တဝါများ)မှ လည်းကောင်း ၊အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါးတွင်ခိုလှုံပါ၏။ ကျွန်တော်မျိုးသည် ကျား၊ ခြသေ့်နှင့် မြွေဆိုးကြီးတို့၏(အန္တရာယ်မှ)လည်းကောင်း၊မြွေများ၊

---

(٣٩) أخرجه أبوداود في كتاب الجهاد،باب مايقول الرجل إذا نزل المنزل.

ကင်းများ၏(အန္တရာယ်များ)မှလည်းကောင်း၊ဂျင်န်များ၏(အန္တရာယ်များ)မှ လည်းကောင်း၊ ရှိန်သွာန်နှင့် ရှိန်သွာန်၏သားသမီးတို့၏ (အန္တရာယ်များ)မှလည်းကောင်း အရှင်မြတ်၏ထံတော်ပါးတွင် ခိုလှုံပါ၏။ (အဗူဒါဝူးဒ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| دبَّ (ض) دَبًّا ودَبِيْباً | တွားသွားခြင်း၊ ဖြေးဖြေးသွားခြင်း |
| أَسَدٌ (ج) أُسُوْدٌ | ခြင်္သေ့ |
| أسْوَدُ | ကြီးမားသောမြွေ |
| حَيَّةٌ (ج) حَيَّاتٌ | မြွေ |
| عَقْربٌ (ج) عَقَارِبُ | ကင်း |

## (٤٠) الحديث الأربعون

عَـن كَعْبٍ (رَضِيَ اللّٰهعَنْهُ) أَنَّ النَّبِي ﷺ كَانَ إِذَا قَدِمَ مِنْ سَفَرٍ ضُحًى دَخَلَ المَسْجِدَ فَصَلَّى رَكعَتَيْنِ قبلَ أَن يَجْلِسَ. ﴿ متفق عليه ﴾

**အဓိပ္ပါယ်**

ဟဇရသ်ကအဗ် رضي الله عنه သခင်ဆင့်ပြန်သည်မှာ. . တမန်တော်မြတ် ﷺ သည် နေ့အချိန် ခရီးမှပြန်ရောက်လာသောအခါ မထိုင်မီအလျင် ဗလီဝတ်ကျောင်းတော်သို့ (အရင်ဦးဆုံး) ကြွမြန်းသွားတော်မူပြီး၊ မထိုင်မီအလျင် နမားဇ်(၂)ရကအသ် ဝတ်ပြုတော်မူလေသည်။ (ဗိုခါရီကျမ်း နှင့် မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| صَلّىٰ (تفعيل) تَصْلِيَةً | နမားဇ်ဝတ်ပြုခြင်း |
| رَكْعَةٌ (ج) رَكَعاتٌ | ရကအသ် |
| مَسْجِدٌ (ج) مَساجِدُ | ဗလီဝတ်ကျောင်းတော် |

(٤٠) أخرجه أخرجه البخاري في كتاب الجهاد، باب الصلاة إذا قدم من السفر. أخرجه مسلم في كتاب صلاة المسافرين ، باب استحباب الركعتين في المسجد لمن قدم من السفر.

## အခန်း (၁၈) အစားအစာ သုံးဆောင်သောအခါလိုက်နာရမည့်စည်းကမ်း

## (٤١)الحديث الحادي والأربعون

عـن عُـمَرَ بنِ أَبِيْ سَلَمَةَ (رَضِيَ اللّٰهعَنْهُ) يَقُولُ: كُنتُ غُلَامًا فِي حَجْرِ رَسُولِ اللَّهِ ﷺ وَكَـانَتْ يَدِيْ تَطِيْشُ فِيْ الصَّحْفَةِ فَقَالَ لِيْ رَسُولُ اللَّهِ ﷺ: يَا غُلَامُ! سَمِّ اللَّهَ وَكُلْ بِيَمِينِكَ وَكُلْ مِمَّا يَلِيكَ ـ فَمَا زَالَتْ تِلكَ طَعْمَتِيْ بَعْدُ. ﴿ متفق عليه ﴾

### အဓိပ္ပါယ်

ဟဇရသ်အိုမရ်ဗင်အဘီစလမဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်မှာ. . ကျွန်တော်သည် ကလေးဘ၀၌ တမန်တော်မြတ်ﷺ၏ ထိန်းသိမ်းစောင့်ရှောက်မှုအောက်တွင်ရှိခဲ့သည်။ ကျွန်တော်၏လက်များသည် ထမင်းစားသောအခါတွင် ပန်းကန်၌ဟိုဟိုဒီဒီရောက်နေခဲ့၏။ ထိုအခါ တမန်တော်မြတ်ﷺသည် ကျွန်တော်အား မိန့်တော်မူသည်မှာ. . အိုကလေးငယ်၊ အလ္လာဟ်အရှင်မြတ်၏နာမတော်ဖြင့် အစပြုပါ။ ထို့နောက် အသင်၏ညာလက်ဖြင့် (ပန်းကန်၏) အနီးဆုံးနေရာမှ စတင်၍ စားသုံးပါ။ ဟဇရသ်အိုမရ်ဗင်အဘစလ်မဟ်ﷺ သခင်က ပြောကြားသည်မှာ. . ကျွန်တော်သည် (တမန်တော်မြတ်ﷺ၏သင်ကြားပြသသည့်ပုံစံအတိုင်း) အမြဲစားသုံးခဲ့သည်။ (ဗိုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| ကလေးငယ်၊ ကျေးကျွန် | غُلامٌ (ج) أَغْلامٌ وغِلْمَانٌ |
| ရင်ခွင်၊ထိန်းသိမ်းစောင့်ရှောက်မှု | حَجْرٌ (ج) أَحْجُرٌ |
| ပေါ့ပျက်ပျက်လုပ်ခြင်း၊ အပေါ့ရိကလုပ်ခြင်း | طاشَ (ض) طَيْشاً |
| ပန်းကန်ပြား၊ ပန်းကန်လုံး | صَحْفَةٌ (ج) صَحَائِفُ |
| စားသောက်ခြင်း | أكل (ن) أَكْلاً |

(٤٢)أخرجه البخاري في كتاب الأطعمة ،باب التسمية على الطعام والأكل باليمين.وأخرجه مسلم في كتاب الأشربة ، باب آداب الطعام والشراب وأحكامهما

# (٤٢) الحديث الثاني والأربعون

عَنْ مُعَاذِ بنِ أَنَسٍ (رَضِيَ اللّهعَنْهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ: مَنْ أَكَلَ طَعَامًا فَقَالَ: الحَمْدُ لِلَّهِ الَّذِيْ أَطْعَمَنِيْ هَذَا، وَرَزَقَنِيْهِ مِنْ غَيْرِ حَوْلٍ مِنِّيْ وَلاَ قُوَّةٍ - غُفِرَ لَهُ مَا تَقَدَّمَ مِن ذَنْبِهِ. ﴿رواه الترمذي﴾

## အဓိပ္ပါယ်

ဟဇရသ်မို့အားဇ်ဗင်န်အနပ်စ် ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺမိန့်တော်မူသည်မှာ. . မည်သူမဆို စားသောက်ပြီးသောအခါ(အောက်ပါဒိုအာကို)ရွတ်ဖတ်ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူကျူးလွန်ခဲ့သောအပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူမည်။ (ဒိုအာ၏အဓိပ္ပါယ်မှာ) ချီးမွမ်းထောပနာမှုအလုံးစုံသည် အလ္လာဟ်အရှင်မြတ်အတွက်သာလျှင် ဖြစ်ပါသည်။ ထိုအရှင်မြတ်သည် ကျွန်တော်မျိုးအား ဤအစားအစာကို ကျွန်တော်မျိုး၏အင်အားနှင့်စွမ်းဆောင် နိုင်မှုမပါဘဲ ကျွေးမွေးတော်မူခဲ့သည်။

(သေ့ရ်မီဇီကျမ်း)

## ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| အစားအစာကျွေးမွေးခြင်း | أَطْعَمَ (إفعال) إطْعاماً |
| ချီးမြင့်ခြင်း၊ ရိုဇီရိက္ခာပေးသနားခြင်း | رَزَقَ (ن) رِزْقاً |
| တတ်စွမ်းနိုင်မှု | حَوْلٌ (ج) أَحْيالٌ |
| အင်းအား | قُوَّةٌ (ج) قُوًى |
| အပြစ်ဒုစရိုက် | ذَنْبٌ (ج) ذُنُوْبٌ |

(٤٢) أخرجه الترمذي في كتاب الدعوات، باب ما يقول إذا فرغ من الطعام.

## (٤٣) الحديث الثالث والأربعون

عَـنْ عَـائِشَةَ ( رَضِـيَ اللّٰهُعَنْهَا) قَالَتْ : قَالَ رَسُولُ اللَّهِ ﷺ: إِذَا أَكَلَ أَحَدُكُمْ طَعَامًا ، فَلْيَقُلْ بِسْمِ اللَّهِ فَإِنْ نَسِيَ فِي أَوَّلِهِ ، فَلْيَقُلْ بِسْمِ اللَّهِ فِي أَوَّلِهِ وَآخِرِهِ.

﴿ رواه الترمذي ﴾

### အဓိပ္ပါယ်

ဟဇရတ်အာအိရှာဟ်ﷺသခင်မကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . အသင်တို့တစ်ဦးဦးသည် အစားအသောက်စားသုံးသောအခါ بِسْمِ اللَّهِ ဖတ်၍စားသုံးပါ။အကယ်၍အစတွင်ဖတ်ရန် မေ့လျော့သွားပါ. بِسْـمِ الـلَّـهِ فِـي أَوَّلِـهِ وَآخِـرِهِ ရွတ်ဖတ်ပါ။ (သေ့ရ်မီဇီကျမ်း)

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| مေ့လျော့ခြင်း | نَسِيَ (س) نَسْياً ونِسْيَاناً |

## (٤٤) الحديث الرابع والأربعون

عَـنِ ابـنِ عَبَّـاسٍ( رَضِـيَ اللّٰهُعَنْهُمَا) أَنَّ النَّبِيَّ ﷺ قَالَ: إِذَا أَكَلَ أَحَدُكُمْ ، فَلَا يَمْسَحْ يَدَهُ حَتَّىٰ يَلْعَقَهَا أَو يُلْعِقَهَا . ﴿ متفق عليه ﴾

### အဓိပ္ပါယ်

ဟဇရတ်အိဗ်နေ့အဗ္ဗါးစ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ. အသင်တို့တစ်ဦးဦးသည် စားသောက်ပြီးသောအခါ မိမိလက်ချောင်းများအား စုပ်ခြင်းမရှိဘဲ (သို့) မစုပ်ခိုင်းဘဲ လက်ဆေးခြင်း၊ လက်သုပ်ခြင်းများကို မပြုလုပ်လေနှင့်။

(ဗုခါရီကျမ်း နှင့် မွစ်လင်မ်ကျမ်း)

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| စုပ်ခြင်း၊လျက်ခြင်း | لَعِقَ (س) لَعْقاً |

---

(٤٣) أخرجه الترمذي كتاب الأطعمة، باب ماجاء في تسمية على الطعام.

(٤٤) أخرجه البخاري في كتاب الأطعمة، باب لعق الأصابع ومصها......وأخرجه مسلم في كتاب الأشربة ، باب استحباب لعق الأصابع والقصعة.

## (٤٥) الحديث الخامس والأربعون

عَنِ ابنِ عَبَّاسٍ( رَضِيَ اللّٰهعَنْمَا) قَالَ: قَالَ رَسُولُ اللَّهِ ﷺ : لَا تَشْرَبُوْا وَاحِدًا كَشُرْبِ البَعِيْرِ وَلٰكِنِ اشْرَبُوْا مَثْنَى وَثُلَاثَ ، وَسَمُّوْا إِذَا أَنتُمْ شَرِبْتُم ، وَاحْمَدُوْا إِذَا أَنتُمْ رَفَعْتُم .﴿ رواه الترمذي﴾

### အဓိပ္ပါယ်

ဟဇရသ်အဗ္ဗဒ်နေ့အဗ္ဗါးစ်ﷺသခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . အသင်တို့ ကုလားအုတ်များ ရေသောက်သကဲ့သို့ (အသက်)တစ်ရှူ ထဲ ရေမသောက်လေနှင့်။ နှစ်ကြိမ်၊ သုံးကြိမ်(နား၍)သောက်သုံးပါ။ ရေသောက်သောအခါ တွင် بِسْمِ اللّٰهِ ဖတ်ကြပါ။ သောက်ပြီးသော အခါတွင်လည်း الحَمْدُ للّٰهِ ဖတ်ကြပါ။ (သေ့ရ်မိဇီကျမ်း)

### ကျက်မှတ်ရန် စကားစစ်များ

| | |
|---|---|
| مَثْنٰى | နှစ်ကြိမ် နှစ်ကြိမ် |
| ثُلاثُ | သုံးကြိမ် သုံးကြိမ် |
| رفَعَ (ف) رَفْعاً | မြှောက်ခြင်း၊ ဖယ်ရှားခြင်း |

## (٤٦)الحديث السادس والأربعون

عَن عَبدِ اللّٰهِ بنِ عُمَرَ( رَضِيَ اللّٰهعَنهُمَا) أَنَّ النَّبِيَّ ﷺ قَالَ: لَا يَأْكُلْ أَحَدُكُمْ بِشِمَالِهِ وَلَا يَشرَبْ بِشِمَالِهِ ، فَإِنَّ الشَّيطَانَ يَأكُلُ بِشِمَالِهِ وَيَشْرَبُ بِشِمَالِهِ . ﴿ رواه الترمذي﴾

### အဓိပ္ပါယ်

ဟဇရသ်အဗ်ဒွလ်လာဟ်ဗင်န်အိုမရ်ﷺ သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ.အသင်တို့တစ်ဦးဦးသည် ဘယ်ဖက်လက်ဖြင့် စားသောက်ခြင်းမပြု လေနှင့်။အဘယ်ကြောင့်ဆိုသော် ရှိုင်သွာန်သည် ဘယ်ဖက်လက်ဖြင့် စားသောက်လေ့ရှိ သည်။ (သေ့ရ်မိဇီကျမ်း)

---

(٤٥) أخرجه الترمذي في كتاب الأشربة ، باب ماجاء في التنفس في الإناء.

(٤٦) أخرجه الترمذي في كتاب الأطعمة ، باب ماجاء في النهي عن الأكل والشرب بالشمال.

## (٤٧) الحديث السابع والأربعون

عَـن جَـابِرٍ( رَضِيَ اللّهعَنهُ) قَالَ: سَمِعْتُ النَّبِيَّ ﷺ يَقُوْلُ : إِنَّ الشَّيْطَانَ يَحْضُرُ أَحَـدَكُم عِنْدَ كُلِّ شَيءٍ مِن شَأنِهِ حَتَّى يَحضُرَهُ عِنْدَ طَعَامِهِ ، فَإِذَا سَقَطَتْ مِن أَحدِكُمْ الـلُّقْمَةُ فَلْيُمِطْ مَا كَانَ بِهَا مِن أَذًى، ثُمَّ لِيَأكُلْهَا وَلاَ يَدَعْهَا لِلشَّيْطَان ، فَإِذَا فَرَغَ فَلْيَلْعَقْ أَصَابِعَهُ ، فَإِنَّهُ لاَ يَدرِيْ فِيْ أَيِّ طَعَامِهِ تَكُونُ البَرَكَةُ. ﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရတ်ဂျာဗေရ်ﷺသခင်ဆင့်ပြန်ခဲ့သည်။ကျွန်တော်သည် တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ. . ရှိုင်သွာန်သည် အသင်တို့၏ကိစ္စတိုင်းတွင် (လာရောက်)လေ့ရှိပြီး စားသောက်ချိန်တွင်လည်း လာရောက်လေ့ရှိသည်။ အသင်တို့သည် စားသောက်ရာတွင် အစားအစာတစ်ခုခုအောက်သို့ ကျသွားသော အခါပြန်ကောက်ယူပါ။ ထို့နောက်ပေနေသောအရာများကို ဖယ်ရှား၍စားသုံးပါ။ ရှိုင်သွာန်အတွက် မချန်ထားပါနှင့်။ စားသောက်ပြီးသော အခါတွင်လည်း လက်ချောင်းများကို ပြောင်အောင်စုပ်ယူပါ။ မည်သည့်အစားအစာတွင် ဗရကသ်ရှိသည်ကို မည်သူမျှမသိရှိနိုင်သောကြောင့်ဖြစ်သည်။ (မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| سَقَطَ (ن) سَقْطاً وسُقُوْطاً | ပြုတ်ကျခြင်း |
| أماطَ (إفعال) إِمَاطَةً | ဖယ်ရှားခြင်း |
| فَرَغَ (ن) فَراغاً وفُرُوْغاً ( من ) | ပြီးဆုံးခြင်း |

## (٤٨) الحديث الثامن والأربعون

عَن أَبِيْ هُرَيرَةَ( رَضِيَ اللّهعَنْهُ) قَالَ : مَا عَابَ رَسُولُ اللَّهِ ﷺ طَعَامًا قَطُّ ،كَانَ إِذَا اشْتَهٰى شَيْئًا أَكَلَهُ، وَإِنْ كَرِهَهُ تَرَكَهُ . ﴿ متفق عليه ﴾

---

(٤٧) أخرجه مسلم في كتاب الأشربة ، باب ماجاء في استحباب لعق الأصابع والقصعة...

(٤٨) أخرجه البخاري في كتاب الأطعمة، باب ما عاب النبي ﷺ طعاما. وأخرجه مسلم في كتاب الأشربة ، باب لا يعيب الطعام، هذا لفظ مسلم.

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﷜ သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺသည် မည်သည့်အစားအစာကိုမျှ မကောင်းပြောဆိုခြင်းအလျဉ်းမပြုလုပ်ခဲ့ပါ။ စိတ်ဆန္ဒရှိသော အရာအား စားသုံးတော်မူ၍ မနှစ်သက်သောအရာအား မစားသောက်ဘဲထားလေ့ရှိသည်။ (ဗိုခါရီကျမ်း နှင့် မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| عَابَ (ض) عَيْباً | မကောင်းပြောဆိုခြင်း |
| اشتهى (افتعال) اِشْتِهاءً | လိုလားခြင်း၊ ဆန္ဒရှိခြင်း |
| كَرِهَ (س) كَرْهاً وكَراهَةً | မနှစ်မြို့ခြင်း |

## (٤٩) الحديث التاسع و الأربعون

عَن أَبِي أُمَامَةَ (رَضِيَ اللهُ عَنْهُ) أَنَّ النَّبِيَّ ﷺ كَانَ إِذَا رَفَعَ مَائِدَتَهُ قَالَ: الحَمْدُ لِلَّهِ كَثِيرًا طَيِّبًا مُبَارَكًا فِيهِ غَيْرَ مَكْفِيٍّ وَلَا مُوَدَّعٍ وَلَا مُسْتَغْنًى عَنْهُ رَبَّنَا. ﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူအိုမာမဟ်﷜သခင်ဆင့်ပြန်သည်မှာ. တမန်တော်မြတ် ﷺသည် ထမင်းစားပွဲသိမ်းသောအခါ (ဤဒိုအာကို) ရွတ်ဖတ်တော်မူလေသည်။ ဒိုအာ၏ အဓိပ္ပါယ်မှာ" ဗရကာသ်မင်္ဂလာ နှင့်ပြည့်စုံသော၊ စိတ်စေတနာဖြူစင်စွာ ဖြင့်မြောက်များစွာသော ချီးမွမ်းထာပနာမှုအလုံးစုံတို့သည် အလ္လာဟ်ရှင်မြတ်အတွက်သာလျှင် ဖြစ်ပါသည်။ အိုအရှင်၊ ပြီးပြည့်စုံပြီး၊ စဉ်ဆက်မပြက် လိုလေသေးမရှိသော ချီးမွမ်းမှုများဖြင့် အရှင်မြတ်အား ချီးမွမ်းထောမနာ ပြုပါ၏။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| وَدَّعَ (تفعيل) تَوْدِيْعاً | နှုတ်ဆက်ခြင်း၊စွန့်လွှတ်လိုက်ခြင်း |
| استغنى (استفعال) اسْتِغْنَاءً | လိုအပ်ချက်ကင်းမဲ့ခြင်း |

(٤٩) أخرجه البخاري في كتاب الأطعمة، باب مايقول إذا فرغ من طعامه.

## အခန်း (၁၉) မွတ်စ်လင်မ်တစ်ဦး၏ ကျင့်ဝတ်များ

## (٥٠) الحديث الخمسون

عَنْ عَدِيِّ بنِ حَاتِمٍ (رَضِيَ اللّٰهُ عَنْهُ) عَنْ رَسُولِ اللَّهِ ﷺ: أَنَّهُ ذَكَرَ النَّارَ، فَتَعَوَّذَ مِنْهَا وَأَشَاحَ بِوَجْهِهِ ثَلَاثَ مِرَارٍ، ثُمَّ قَالَ : اتَّقُوا النَّارَ وَلَوْ بِشِقِّ تَمرَةٍ ، فَإِنْ لَمْ تَجِدُوْا فَبِكَلِمَةٍ طَيِّبَةٍ . ﴿متفق عليه﴾

**အဓိပ္ပါယ်**

ဟဒီရသ်အဒီဗင်န်ဟာသင်မ် (ရ) သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ သည် ဂျဟန္နမ်ငရဲမီးအကြောင်းမိန့်တော်မူ၍ ထိုငရဲမီးမှ(အရှင်မြန်ထံ)ခိုလှုံခွင့်တောင်းခံခဲ့၏။ တမန်တော်မြတ် ﷺ သည်(ကြောက်ရွံ့သည်အနေဖြင့်) မိမိမျက်နှာတော်အား (၃)ကြိမ်တိုင်တိုင် လွှဲဖယ်တော်မူခဲ့သည်။ ထို့နောက်ကိုယ်တော်က မိန့်တော်မူသည်မှာ. . အသင်တို့သည် စွံပလွံသီးတဖဲ့မျှပင်ဖြစ်နေလင့်ကစား (ဆွဒကဟ်)ပြုလုပ်ခြင်းဖြင့် ဂျဟန္နမ်ငရဲမီးမှ မိမိကိုယ်ကိုရှောင်ရှားကြပါ။ စွံပလွံသီးတဖဲ့မျှပင် အလှူဒါနမပြုနိုင်ပါကကောင်းမွန်သော စကား ပြောဆိုခြင်းဖြင့် ဂျဟန္နမ်ငရဲမီးမှ ရှောင်ရှားကြပါ။ (ဗိုခါရီကျမ်းနှင့်မွစ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| تَعَوَّذَ (تفعل) تَعَوُّذاً | ခိုလှုံခြင်း |
| أشاح (إفعال) إشاحةً | လွှဲဖယ်ခြင်း |
| شِقٌّ (ج) شُقُوْقٌ | တဖဲ့၊တစ်စိတ်၊ အစိတ်အပိုင်း |

## (٥١) الحديث الحادي والخمسون

عَن أَبِي هُرَيرَةَ (رَضِيَ اللّٰهُ عَنْهُ) عَنِ النَّبِيِّ ﷺ قَالَ: إِنَّ اللَّهَ يُحِبُّ العُطَاسَ وَيَكْرَهُ التَّثَاؤُبَ، فَإِذَا عَطَسَ أَحَدُكُم وَحَمِدَ اللَّهَ ، كَانَ حَقًّا عَلَى كُلِّ مُسلِمٍ سَمِعَهُ ، أَنْ يَقُولَ لَهُ ـ يَرْحَمُكَ اللَّهُ ـ وَأَمَّا التَّثَاؤُبُ ، فَإِنَّمَا هُوَ مِنَ الشَّيْطَانِ، فَإِذَا تَثَاءَبَ أَحَدُكُمْ فَلْيَرُدَّهُ مَا استَطَاعَ ، فَإِنَّ أَحَدَكُمْ إِذَا تَثَاءَبَ ضَحِكَ مِنهُ الشَّيطَانُ. ﴿رواه البخاري﴾

(٥٠) أخرجه البخاري في كتاب الأدب، باب طيب الكلام، وأخرجه مسلم في كتاب الزكاة ، باب الحث على الصدقة ......هذا لفظ مسلم.

(٥١) أخرجه البخاري في كتاب الأدب ، باب إذا تثاء ب فليضع يده على فيه.( تثاء ب) وفي بعض النسخ (تثاوب)وهما لغتان وبالهمزة والمد أشهر.

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﵁ သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . အလ္လာဟ်အရှင်မြတ်သည် နှာချေခြင်းကို နှစ်သက်တော်မူ၍ သမ်းဝေခြင်းကို ရွံရှာတော်မူလေသည်။အသင်တို့တစ်ဦးဦးသည် နှာချေ၍အလ်ဟမ်ဒိုလေ့လ်လဟ် ဖတ်လိုက်ပါက ကြားလိုက်ရသည့် မွစ်လင်မ်တစ်ဦး အတွက် يَـرحَـمُكَ اللَّه ဖတ်ရန်တာဝန် ရှိပေသည်။သမ်းဝေခြင်းသည် ရှိုင်သွာန်၏ (နှောက်ယှက်မှု)ကြောင့်ဖြစ်ပေသည်။ အသင်တို့တစ်ဦးဦးသည် သမ်းဝေလာပါက တတ်နိုင်သလောက် ပပျောက်အောင်ပြုလုပ်ပါ။ အကယ်၍ သမ်းဝေလိုက်ပါက ရှိုင်သွာန်သည် ပျော်ရွှင်သွားလေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| تثَاءَ بَ (تفاعل) تَثَاؤُباً | သမ်းဝေခြင်း |
| ضَحِكَ (س) ضِحْكاً وضَحِكاً | ရယ်မောခြင်း၊ပျော်ရွှင်ခြင်း |

## (٥٢) الحديث الثاني والخمسون

عَـن سَـالِمِ بنِ عَبدِ اللَّهِ( رَضِيَ اللّٰهعَنْهُ) قَالَ: سَمِعتُ أَبَا هُرَيرَةَ ( رَضِيَ اللّٰهعَنْهُ) يَـقُـوْلُ: سَـمِـعْـتُ رَسُولَ اللَّهِ ﷺ يَقُوْلُ: كُلُّ أُمَّتِي مُعَافًى إِلَّا الْمُجَاهِرِينَ ، وَإِنَّ مِنَ الـمَـجَـانَةِ أَن يَـعْـمَلَ الرَّجُلُ بِاللَّيلِ عَمَلاً ، ثُمَّ يُصْبِحَ وَقَدْ سَتَرَهُ اللَّهُ ، فَيَقُوْلَ يَا فُلاَنُ ! عَمِلْتُ البَارِحَةَ كَذَا وَكَذَا، وَقَدْ بَاتَ يَسْتُرُهُ رَبُّهُ ، وَيُصْبِحُ يَكْشِفُ سِتْرَ اللَّهِ عَنْهُ .

﴿ رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်စာလင်မ်﵁ဆင့်ပြန်သည်မှာ. ကျွန်တော်သည်ဟဇရသ်အဗူဟိုရိုင်ရာဟ်﵁ သခင်ဆင့်ပြန်သည်ကိုကြားသိခဲ့ရသည်။ဟဇရသ်အဗူဟိုရိုင်ရာဟ် ﵁ သခင်ဆင့်ပြန်သည်မှာ ကျွန်တော်သည်တမန်တော်မြတ် ﷺ မိန့်တော်မူသည်ကိုကြားသိခဲ့ရသည်။ ထုတ်ဖော်ကြေညာသူတို့မှအပ ငါကိုယ်တော်၏အွမ္မသ်သားအားလုံးတို့၏ (လုပ်ရပ်များသည်) ခွင့်လွှတ်ခြင်းခံရပေမည်။လူတစ်ယောက်သည် ညအခါတွင် ကိစ္စတစ်ခုကိုပြုလုပ်၍

---

(٥٢) أخرجه البخاري في كتاب الأدب، باب ستر المؤمن على نفسه.

အလ္လာဟ်အရှင်မြတ်သည် ထိုကိစ္စအားဖုံးကွယ်ထားပါလျှက် မနက်ခင်းရောက်သောအခါ အို မည်သူမည်ဝါ၊ ငါသည်မနေ့ညက မည်သို့မည်ပုံ ပြုလုပ်ခဲ့သည်ဟု ထုတ်ဖော်ကြေညာမည်။ ထိုကဲ့သို့ထုတ်ဖော်ကြေညာခြင်းသည် အရှက်မရှိသော လုပ်ရပ်ပင်ဖြစ်ပေသည်။ အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ကိစ္စရပ်အားဖုံးထားပါလျှက် ထိုသူသည် အလ္လာဟ် အရှင်မြတ်၏ဖုံးကွယ်ထားမှုအား မနက်ခင်းရောက်သောအခါတွင် ထုတ်ဖော်လိုက်ခြင်းပင် ဖြစ်ပေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| عافى (مفاعلة) مُعَافَاةً | ခွင့်လွှတ်ပေးခြင်း |
| جاهر (مفاعلة) مُجاهرةً | ထုတ်ဖော်ကြေညာခြင်း |
| سَتَرَ (ن) سَتْرًا وسَتَرًا | ဖုံးကွယ်ထားခြင်း |
| كَشَفَ (ض) كَشْفًا | ပေါ်လွင်အောင်ပြုလုပ်ခြင်း |

## (٥٣) الحديث الثالث والخمسون

عَـن أَبِـي هُـرَيرَةَ ( رَضِيَ اللّٰهعَنْهُ) قَالَ : قَالَ رَسُولُ اللَّهِ ﷺ: ثَلَاثَةٌ لَا يُكَلِّمُهُمُ اللَّـهُ يَـوْمَ الـقِيَـامَةِ وَلَا يُـزَكِّيهِمْ وَلَهُم عَذَابٌ أَلِيمٌ : شَيخٌ زَانٍ، وَمَلِكٌ كَذَّابٌ ، وَعَائِلٌ مُستَكْبِرٌ. ﴿رواه مسلم﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﵁ သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . အလ္လာဟ်အရှင်မြတ်သည် (၃)ဦးသောသူတို့အား ကေယာမသ်နေ့တွင် စကားပြောဆိုတော် မူမည်မဟုတ်။ ထိုသူတို့အား (အပြစ်များမှလည်း)စင်ကြယ်သန့်ရှင်းအောင်ပြုလုပ်ပေးမည်မဟုတ်။ထိုသူတို့အား ပြင်းထန်သောပြစ်ဒဏ်ခတ်တော်မူမည်။ ထိုသူ(၃)ဦးမှာ. (၁)ဇေနာလုပ်သောအဘိုးအို၊ (၂)မုသားပြောသောဘုရင်၊ (၃)မာန်မာနထောင်လွှားသော သူဆင်းရဲတို့ဖြစ်သည်။ (မွစ်လင်မ်ကျမ်း)

---

(٥٣) أخرجه مسلم في كتاب الإيمان، باب بيان غلظ تحريم إسبال الإزار......

ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| زكّى (تفعيل) تَزْكِيَةً | စင်ကြယ်သန့်ရှင်းအောင်ပြုလုပ်ခြင်း |
| آلم (إفعال) إيلاماً | နာကြင်အောင်ပြုလုပ်ခြင်း |
| شَيْخٌ (ج) شُيُوْخٌ | အဘိုးအိုဂုဏ်ရှိသူ |
| مَلِكٌ (ج) مُلُوْكٌ | ဘုရင် |
| عال (ن) عَوْلاً وعِيَالاً | ဆင်းရဲနွမ်းပါးခြင်း |
| استكبر (استفعال) استِكْبارًا | မာန်မာနထောင်လွှားခြင်း |

## (٥٤) الحديث الرابع والخمسون

عَنْ حَارِثَةَ بنِ وَهبٍ الخُزَاعِيِّ (رَضِيَ اللّٰهُ عَنْهُ) عَنِ النَّبِيِّ ﷺ قَالَ: أَلَا أُخْبِرُكُمْ بِأَهْلِ الجَنَّةِ، كُلُّ ضَعِيْفٍ مُتَضَاعِفٍ لَوْ أَقْسَمَ عَلَى اللَّهِ لَأَبَرَّهُ، أَلَا أُخْبِرُكُمْ بِأَهْلِ النَّارِ، كُلُّ عُتُلٍّ جَوَّاظٍ مُسْتَكْبِرٍ. ﴿متفق عليه﴾

**အဓိပ္ပါယ်**

ဟဇရသ်ဟာရေဆဟ်ဗင်ဝဟဗ်(ရ)သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်(ဆ)က “ငါတမန်တော်သည် အသင်တို့အားဂျန္နသ်သီများကို မပြောပြရပေဘူးလားဟု”မေးမြန်း၍ မိန့်ကြားသည်မှာ အလွန်အင်အားချည့်နဲ့နွမ်းပါးသူတိုင်းသည် ဂျန္နသ်သီများ ဖြစ်ကြသည်။အကယ်၍ ၎င်းတို့သည်အလ္လာဟ်အရှင် မြတ်အားတိုင်တည်၍ ကျိန်ဆို လိုက်ပါက အလ္လာဟ်အရှင်မြတ်သည် ၎င်းတို့ကျိန်ဆိုမှုကို မုချပြည့်ဝအောင်ပြု လုပ်ပေးတော် မူသည်။ ထို့နောက်မိန့်ကြားသည်မှာ. ငါတမန်တော်သည် အသင် တို့အား ဂျဟန္နမ်မီများကို မပြောပြရပေဘူးလားဟု မေးမြန်း၍“ရက်စက်ကြမ်းကြုတ်သူ၊ ခက်ထန်မာကြောသူ၊ မာန်မာနထောင်လွှားသူတိုင်းသည် ” (ဂျဟန္နမ်မီများ) ဖြစ်ကြသည်။

(ဗုခါရီကျမ်း နှင့် မွစ်လင်မ်ကျမ်း)

ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| ضَعِيفٌ (ج) ضُعفاءُ | အင်အားချည့်နဲ့သူ |

(٥٤) أخرجه البخاري في كتاب الأدب، باب الكبر. وأخرجه مسلم فى كتاب صفة الجنة وأهلها ونعيمها، باب النار يدخلها الجبارون......هذا لفظ البخاري.

| | |
|---|---|
| تضاعف (تفاعل) تضاعفاً | နှစ်ဆများသွားခြင်း |
| أقسم (إفعال) إقساماً | ကျိန်ဆိုခြင်း |
| أَبَرَّ (إفعال) إبْرارًا | ပြည့်ဝအောင်ပြုလုပ်ခြင်း၊အကောင်အထည်ဖော်ခြင်း |
| عُتُلٌّ (ج) عُتَلاَءُ | ရက်စက်ကြမ်းကြုတ်သူ |
| جوّاظٌ | ခက်ထန်မာကြောသူ |

## (٥٥) الحديث الخامس والخمسون

عَـنْ مُعَاذٍ ( رَضِيَ اللّٰهعَنْهُ) أَنَّ رَسُولَ اللَّهِ ﷺ قَالَ: مَنْ كَظَمَ غَيْظًا وَهُوَ قَادِرٌ عَـلَـى أَن يُنْفِذَهُ ، دَعَاهُ اللَّهُ عَزَّ وَجَلَّ عَلَى رُؤُوْسِ الخَلاَئِقِ يَوْمَ القِيَامَةِ حَتَّى يُخَيِّرَهُ اللَّهُ مِنَ الحُوْرِ مَا شَاءَ .﴿رواه أبوداود﴾

### အဓိပ္ပါယ်

ဟဇရတ်မုအားဇ်ရှိသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . မည်သူမဆို ဒေါသအလျောက်ပြုလုပ်နိုင်ပါလျှက် ချုပ်တည်းခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အားကေယာမသ်နေ့တွင် လူသားများအားလုံး၏ ရှေ့မှောက်သို့ခေါ်ယူတော်မူ၍ (ဟူရ်) ကညာပျိုများအနက် ကြိုက်နှစ်သက်ရာကို ရွေးချယ်စေတော်မူမည်။

(အဗူဒါဝူးဒ်ကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| كظَم (ض) كَظْماً (على) | ထိန်းချုပ်ခြင်း၊ချုပ်တည်းထားခြင်း |
| غاظ (ض) غَيْظاً | ဒေါသထွက်ခြင်း |
| أنْفذ (إفعال) إنفاذًا | ပြဒါန်းခြင်း၊အကောင်အထည်ဖော်ခြင်း |
| خَيَّر (تفعيل) تخْييرًا | ရွေးချယ်စေခြင်း |
| حَوْراءُ (ج) حُوْرٌ | ဟူရ် (ဂျန္နသ်၏ ကညာပျို) |

(٥٥) أخرجه أبوداود في كتاب الأدب، باب من كظم غيظا.

## (٥٦) الحديث السادس و الخمسون

عَنْ أَنَسِ بْنِ مَالِكٍ ( رَضِيَ اللّٰهعَنْهُ) أَنَّ رَسُولَ اللَّهِ ﷺ قَالَ : لَا تَبَاغَضُوْا وَلَا تَحَاسَدُوْا وَلَا تَدَابَرُوْا وَكُونُوْا عِبَادَ اللَّهِ إِخْوَانًا ، وَلَا يَحِلُّ لِمُسْلِمٍ أَنْ يَهْجُرَ أَخَاهُ فَوْقَ ثَلَاثَةِ أَيَّامٍ .﴿ متفق عليه ﴾

**အဓိပ္ပါယ်**

ဟဇရသ်အနပ်စ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. အသင်တို့သည် အချင်းချင်းရန်ငြိုးဖြစ်အောင်မပြုလုပ်ကြလေနှင့်။အချင်းချင်းမနာလိုဝန်စိတ်တို့ မထားကြလေနှင့်။ အချင်းချင်းကျောခိုင်းမှုမျိုးမလုပ်ကြလေနှင့်။အသင်တို့အချင်းချင်းသည်ညီနောင်များသဖွယ်အလ္လာဟ်အရှင်မြတ်၏ကျေးကျွန်များအဖြစ်နေထိုင်ကြပါ။ မွစ်လင်မ်တစ်ဦးအတွက် မိမိညီနောင်အား သုံးရက်ထက်ပို၍ မခေါ်မပြောဘဲနေပိုင်ခွင့် မရှိပေ။ (ဗိုခါရီကျမ်းနှင့်မွစ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| تباغض (تفاعل) تباغُضًا | အချင်းချင်းရန်ငြိုးထားခြင်း |
| تحاسد (تفاعل) تحاسُدًا | အချင်းချင်းမနာလိုဝန်တိုခြင်း |
| تدابر (تفاعل) تدابرًا | အချင်းချင်းကြောခိုင်းခြင်း |
| حلَّ (ض) حَلًّا | ပြုလုပ်ပိုင်ခြင်း |
| هجَر (ن) هَجْرًا وهِجْراناً | စွန့်လွှတ်ထားခြင်း |

## (٥٧) الحديث السابع والخمسون

عَن أَبِي هُرَيرَةَ ( رَضِيَ اللّٰهعَنْهُ) عَنْ رَسُوْلِ اللَّهِ ﷺ قَالَ : مَا نَقَصَتْ صَدَقَةٌ مِنْ مَالٍ وَمَا زَادَ اللَّهُ عَبْدًا بِعَفْوٍ إِلَّا عِزًّا وَمَا تَوَاضَعَ أَحَدٌ لِلَّهِ إِلَّا رَفَعَهُ اللَّهُ .﴿ رواه مسلم ﴾

---

(٥٦) أخرجه البخاري في كتاب الأدب، باب ما ينهي عن التحاسد والتدابر. وأخرجه مسلم في كتاب البر والصلة، باب النهي عن التحاسد والتدابر.

(٥٧) أخرجه مسلم في كتاب البر والصلة، باب استحباب العفو والتواضع.

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရာဟ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . . . . . . . ဆွဒ်ကဟ်အလှူဒါနပြုခြင်းကြောင့် ဥစ္စာပစ္စည်းတွင် လျော့နည်းမှုမဖြစ်ပေ။ လူသားတစ်ဦးသည် ခွင့်လွှတ်ခြင်းကြောင့် အလ္လာဟ်အရှင်မြတ်သည် ထိုသူအားသာပို၍ ဂုဏ်သိက္ခာချီးမြှင့်တော်မူပေသည်။တစ်ဦးတစ်ယောက်သည် အလ္လာဟ်အရှင်မြတ်အတွက်ရှိကျိုးခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ့အား ဂုဏ်သိက္ခာမြှင့်တင်ပေးတော်မူသည်။ (မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| ရှိကျိုးခြင်း | تواضع (تفاعل) تواضعا |
| ခွင့်လွှတ်ခြင်း | عفا (ن) عَفْوًا وعُفْوانًا |
| လျော့နည်းခြင်း | نقص (ن) نَقْصًا |
| များပြားခြင်း | زاد (ض) زَيْدًا وزِيادَةً |
| ဂုဏ်သိက္ခာရှိခြင်း | عَزَّ (ض) عِزَّةً |

## (٥٨) الحديث الثامن والخمسون

عَـن عَبدِ اللَّهِ (رَضِيَ اللّٰهعَنْهُ) عَنِ النَّبيِّ ﷺ قَال : إِنَّ الصِّدقَ يَهْدِيْ إِلَى البِرِّ وَإِنَّ البِـرَّ يَهْـدِيْ إِلَـى الـجَـنَّةِ ، وَإِنَّ الرَّجُلَ لَيَصْدُقُ حَتَّى يَكُوْنَ صِدِّيقًا ، وَإِنَّ الكَذِبَ يَهدِيْ إِلَـى الـفُـجُوْرِ وَإِنَّ الفُجُوْرَ يَهدِيْ إِلَى النَّارِ، وَإِنَّ الرَّجُلَ لَيَكْذِبُ حَتَّى يُكْتَبَ عِنْدَ اللَّهِ كَذَّابًا. ﴿متفق عليه﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗ်ဒုလ်လာဟ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. မှန်ကန်စွာပြောဆိုပြောခြင်း ကောင်းမှုဘက်သို့ ပို့ဆောင်ပေးသည်။ကောင်းမှုသည် ဂျန္နသ်သို့ပို့ဆောင်ပေးသည်။ပုဂ္ဂိုလ်တစ်ဦးသည်မှန်ကန်စွာပြောဆိုပါကသစ္စာဝါဒီ

---

(٥٨) أخرجه البخاري في كتاب الأدب ، باب فوله " يآأيها الذين آمنوا اتقوا الله ، و أخرجه مسلم في كتاب البر والصلة، باب قبح الكذب وحسن الصدق.

ဖြစ်သွားသည်။ မုသားပြောဆိုခြင်းသည်မကောင်းမှုဘက်သို့ ပို့ဆောင်ပေးသည်။ မကောင်းမှုသည် ဂျဟန္နမ်သို့ ရောက်စေသည်။ ပုဂ္ဂိုလ်တစ်ဦးသည် မုသားပြောဆို လာခြင်းဖြင့် အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် မုသားဝါဒီအဖြစ် သတ်မှတ်ခြင်း ခံရပေသည်။

(ဗိုခါရီကျမ်းနှင့် မွစ်လင်မ်ကျမ်း)

**ကျက်မှန်ရန် စကားလုံးများ**

| | |
|---|---|
| မကောင်းမှု ကျူးလွန်ခြင်း | فجر (ن) فَجْرًا |
| လမ်းပြခြင်း၊ ပို့ဆောင်ပေးခြင်း | هدى (ض) هَدْياً وهِدايَةً |

## (٥٩) الحديث التاسع والخمسون

عَـن عَبـدِ الـلَّـهِ بـنِ عُمَرَ(رضي الله عنهما) أَنَّ النَّبِيَّ ﷺ قَالَ : أَبَرُّ البِرِّ أَنْ يَصِلَ الرَّجُلُ وُدَّ أَبِيْهِ بَعْدَ أَنْ يُوَلِّى . ﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗ်ဒွလ်လာဟ်ဗင်န်အိုမရ်(ရ)သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ. . အမွန်မြတ်ဆုံးသောကောင်းမှုမှာ ဖခင်သေဆုံးကွယ်လွန်ပြီးနောက် ဖခင်၏(မိတ်ဆွေရောင်းရင်းများနှင့်)ချစ်ခင်စွာအဆက်အသွယ် ထားနေခြင်းပင်ဖြစ်သည်။

(မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| ချစ်ခင်နှစ်သက်ခြင်း | ودَّ (ف) وَدًّا وُدًّا وِدًّا |
| ပြန်လှည့်ခြင်း၊သေဆုံးသွားခြင်း | وَلّي (تفعيل) توْلِيَةً |

---

(٥٩) أخرجه مسلم في كتاب البر والصلة ، باب فضل صلة أصدقاء الأب والأم.......

# အခန်း (၂၀) တောင်းဆုတော်များ

## (٦٠)الحديث والستون

عَـنْ أَبِـيْ هُرَيرَةَ ( رَضِيَ اللّٰهعَنْهُ) أَنَّ النَّبِيَّ ﷺ قَالَ : إِذَا سَمِعْتُمْ صِيَاحَ الدِّيْكَةِ، فَـاسْـأَلُوْا اللَّهَ مِنْ فَضْلِهِ، فَإِنَّهَا رَأَتْ مَلَكًا، وَإِذَا سَمِعْتُمْ نَهِيْقَ الْحِمَارِ، فَتَعَوَّذُوْا بِاللَّهِ مِنَ الشَّيْطَانِ فَإِنَّهَا رَأَتْ شَيْطَانًا . ﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရားဟ် ﵁ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺမိန့်တော်မူသည်မှာ. . . အသင်တို့သည် ကြက်တွန်သံကိုကြားရသောအခါ အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် ဆုမွန်ကောင်းများတောင်းခံကြပါ။၎င်းကြက်သည်ကောင်းကင်တမန်ကို တွေ့မြင်၍တွန်ခြင်းဖြစ်သည်။ အသင်တို့သည် မြည်းဟီးသံကိုကြားရသောအခါ ရှိုင်သွာန်၏(နှောက်ယက်မှုမှ) အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံခွင့်တောင်းခံပါ။ ၎င်းမြည်းသည် ရှိုင်သွာန်ကို တွေ့မြင်ခြင်းကြောင့် ဟီးခြင်းဖြစ်သည်။(မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| صاح (ض) صَيْحَةً و صِياحًا | အော်ခြင်း၊တွန်ခြင်း |
| نهَق (ف ، ض) نَهْقًا و نَهِيْقًا | မြည်းဟီးခြင်း၊ဟီလာတိုက်ခြင်း |

## (٦١) الحديث الحادي والستون

عَنِ ابنِ عَبَّاسٍ( رَضِيَ اللّٰهعَنْهُمَا) قَالَ: كَانَ النَّبِيُّ ﷺ يَدْعُوْ عِنْدَ الكَرْبِ لَا إِلَهَ إِلَّا اللَّهُ العَظِيمُ الحَلِيمُ لَا إِلَهَ إِلَّا اللَّهُ رَبُّ السَّمَوَاتِ وَالْأَرْضِ رَبُّ العَرْشِ العَظِيمِ. ﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အေဗ်နေ့အဗ်ဘားစ်﵄သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် ပူဆွေးသောကဖြစ်သောအခါ(ဤဒိုအာကို)ရွတ်ဖတ်တော်မူလေသည်။ (ဗိုခါရီကျမ်း)

لا إِلَهَ إِلَّا اللَّهُ العَظِيمُ الحَلِيمُ ، لَا إِلَهَ إِلَّا اللَّهُ رَبُّ السَّمَوَاتِ وَالأَرضِ، رَبُّ العَرشِ العَظِيمِ

---

(٦٠) أخرجه مسلم في كتاب الذكر والدعاء والتوبة، باب استحباب الدعاء عند صياح الديكة.

(٦١) أخرجه البخاري في كتاب الدعوات، باب الدعاء عند الكرب.

## (٦٢) الحديث الثاني والستون

عَنْ عَائِشَةَ ( رَضِيَ اللهُ عَنْهَا) قَالَتْ:أَنَّ رَسُولَ اللَّهِ ﷺ كَانَ يَدْعُوْ بِهَؤُلَاءِ الدَّعَوَاتِ ، اللَّهُمَّ فَإِنِّيْ أَعُوذُ بِكَ مِنْ فِتْنَةِ النَّارِ وَعَذَابِ النَّارِ وَفِتْنَةِ القَبْرِ وَعَذَابِ القَبرِ ، وَمِنْ شَرِّ فِتْنَةِ الغِنَى وَمِنْ شَرِّ فِتْنَةِ الفَقرِ وَأَعُوذُ بِكَ مِنْ شَرِّ فِتْنَةِ المَسِيْحِ الدَّجَّالِ ، اللَّهُمَّ اغْسِلْ خَطَايَايَ بِمَاءِ الثَّلْجِ وَالبَرَدِ وَنَقِّ قَلبِيْ مِنَ الخَطَايَا كَمَا نَقَّيتَ الثَّوبَ الأَبْيَضَ مِنَ الدَّنَسِ، وَبَاعِدْ بَينِيْ وَبَيْنَ خَطَايَايَ كَمَا بَاعَدْتَ بَيْنَ المَشْرِقِ وَالمَغْرِبِ ، اللَّهُمَّ فَإِنِّيْ أَعُوْذُ بِكَ مِنَ الكَسَلِ وَالهَرَمِ وَالمَأْثَمِ وَالمَغْرَمِ. ﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အာအေ့ရှာ ﷺ သခင်မကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ သည် (၅၂) ဒိုအာများကို အမြဲတောင်းလေ့ရှိတော်မူသည်။ အိုအရှင်၊ကျွန်တော်မျိုးသည် ဂျဟန္နမ်၏ ဒုက္ခများမှလည်းကောင်း၊ဂျဟန္နမ်၏မီးမှလည်းကောင်း၊ကဗရ်၏ဒုက္ခများမှလည်းကောင်း၊ ကဗရ်၏ပြစ်ဒဏ်များမှလည်းကောင်း၊ချမ်းသာကြွယ်ဝမှုဒုက္ခ၏ဆိုးကျိုးများမှလည်းကောင်း၊ ဆင်းရဲကြပ်တည်းမှု ဒုက္ခ၏ဆိုးကျိုးများမှလည်းကောင်း၊ မစီးဟ်ဒဂ်ျဂျာလ်၏ဒုက္ခဆိုးကျိုးများမှလည်းကောင်း၊ ကိုယ်တော်အရှင်မြတ်ထံခိုလှုံပါ၏။ အိုအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၏အပြစ်များကို အေးမြသောရေဖြင့်လည်းကောင်း၊နှင်းရေဖြင့်လည်းကောင်း ဆေးကြာသန့်စင်ပေးတော်မူပါ။ အိုအရှင်၊ အရှင်မြတ်သည်အကျီအဖြူအားအညစ်အကြေးများမှ သန့်စင်အောင်ပြုလုပ်ပေးသကဲ့သို့ ကျွန်တော်မျိုး၏နှလုံးသားကိုလည်း သန့်စင်ပေးတော်မူပါ။အိုအရှင်၊ အရှင်မြတ်သည် အရှေ့အရပ်နှင့် အနောက်အရပ်ကိုခြားနားထားသကဲ့သို့ ကျွန်တော်မျိုးကိုလည်း အပြစ်များနှင့် ခြားနားထားတော်မူပါ။အိုအရှင်၊ကျွန်တော်မျိုးသည်ပျင်းရိခြင်းမှလည်းကောင်း၊ချည့်နဲ့ခြင်းမှလည်းကောင်း၊အပြစ်ကျူးလွန်ခြင်းမှလည်းကောင်း၊ဆုံးရှုံးပျက်ဆီးခြင်းများမှလည်းကောင်း၊ ကင်းလွတ်ရန် အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။ (မွတ်စ်လင်မ်ကျမ်း)

(٦٢) أخرجه مسلم في كتاب الذكر والدعاء والتوبة، باب التعوذ من شر الفتنة وغيرها.

ကျက်မှန်ရန် စကားဆစ်များ

| | |
|---|---|
| نقّي (تفعيل) تنْقِيَةً | သန့်စင်အောင်ပြုလုပ်ပေးခြင်း |
| خَطِيْئَةٌ (ج) خَطَايَا | အပြစ်များ၊ အမှားများ |
| باعد (مفاعلة) مُبَاعَدَةً | ဝေးကွာအောင်ပြုလုပ်ခြင်း |
| كَسِلَ (س) كَسَلاً | ပျင်းရိခြင်း |
| هَرِمَ (س) هَرَماً | ချည့်နဲ့ခြင်း |
| دَنِس (س) دَنَسًا ودَنَاسَةً | ညစ်ပေခြင်း |
| غَرِمَ (س) غُرْمًا وغَرَامَةً | ဆုံးရှုံးခြင်း |

## (٦٣) الحديث الثالث والستون

عَـن أَنَـسِ بـنِ مَـالِكٍ ( رَضِيَ اللّٰهعَنْهُ)قَالَ: كَانَ رَسُولُ اللَّهِ ﷺ يَقُوْلُ : اللَّهُمَّ إِنِّـي أَعُوْذُ بِكَ مِنَ العَجْزِ وَالكَسَلِ وَالجُبْنِ وَالهَرَمِ وَالبُخْلِ وَأَعُوْذُ بِكَ مِن عَذَابِ القَبْرِ وَمِن فِتْنَةِ المَحيَا وَالمَمَاتِ . ﴿ رواه مسلم ﴾

### အဓိပ္ပါယ်

ဟဇရသ်အနပ်စ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည်(ဤဒိုအာကို) အမြဲတောင်းလျှောက်ရှိတော်မူသည်။အိုအရှင်၊ကျွန်တော်မျိုးသည် ပျော့ညံ့ခြင်းမှလည်းကောင်း ပျင်းရိခြင်းမှလည်းကောင်း၊သူရဲဘောကြောင်ခြင်းမှလည်းကောင်း၊ချည့်နဲ့ခြင်းမှလည်းကောင်း၊ စေးနှဲတွန့်တိုခြင်းတို့မှလည်းကောင်း၊ အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။ အိုအရှင်၊ ကျွန်တော်မျိုးသည် ကဗရ်၏ပြစ်ဒဏ်များမှလည်းကောင်း၊ ရှင်သန်နေစဉ်နှင့်သေဆုံးချိန်တွင်(ကြုံကြိုက်ရမည့်)စမ်းသပ်မှုများမှလည်းကောင်း အရှင်မြတ်ထံတော်ပါး၌ ခိုလှုံပါ၏။

(မွတ်စ်လင်မ်ကျမ်း)

ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| جَبَن (ن) جُبْنًا | သူရဲဘောကြောင်ခြင်း |
| بخل (ك) بُخْلاً و بَخَلاً | ကပ်စေးနှဲခြင်း |

(٦٣)أخرجه مسلم في كتاب الذكر والدعاء والتوبة ، باب التعوذ من العجز والكسل وغيره.

# (٦٤) الحديث الرابع والستون

عَـن شَدَّادِ بنِ أَوْسٍ (رَضِيَ اللّٰهعَنْهُ) عَنِ النَّبِيِّ ﷺ سَيِّدُ الإِسْتِغْفَارِ أَنْ تَقُوْلَ : اللَّهُمَّ أَنْتَ رَبِّيْ لَا إِلَهَ إِلَّا أَنْتَ خَلَقْتَنِيْ وَأَنَا عَبْدُكَ وَأَنَا عَلَى عَهْدِكَ وَوَعْدِكَ مَا اسْتَطَعْتُ أَعُوْذُ بِكَ مِن شَرِّ مَا صَنَعْتُ أَبُوءُ لَكَ بِنِعْمَتِكَ عَلَيَّ وَأَبُوءُ بِذَنْبِي اِغْفِرْ لِي فَإِنَّهُ لَا يَغْفِرُ الذُّنُوْبَ إِلَّا أَنْتَ - قَالَ وَمَن قَالَهَا مِنَ النَّهَارِ مُوْقِنًا بِهَا، فَمَاتَ مِنْ يَوْمِهِ قَبْلَ أَن يُمْسِيَ فَهُوَ مِن أَهْلِ الجَنَّةِ وَمَنْ قَالَهَا مِنَ اللَّيلِ وَهُوَ مُوْقِنٌ بِهَا، فَمَاتَ قَبْلَ أَنْ يُصْبِحَ فَهُوَ مِن أَهْلِ الجَنَّةِ. ﴿رواه البخاري﴾

## အဓိပ္ပါယ်

ဟဇရသ်ရှဒ်ဒါးဒ်ဗင်န်အောက်စ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺက အစ်သေဂ်ဖါရ်များ၏ခေါင်းဆောင်(ဒိုအာတောင်းမည်ဆိုလျှင်)အသင်သည် (ဤကဲ့သို့) တောင်းခံပါ။ အိုအရှင်၊အရှင်မြတ်သည် ကျွန်တော်မျိုးအား မွေးမြူဖန်ဆင်းတော်မူသော အရှင်ဖြစ်တော်မူပါ၏။အရှင်မြတ်မှအပ အခြားကိုးကွယ်ခံထိုက်သူဟူ၍ အလျဉ်းမရှိပါ။ အရှင်မြတ်သည်သာ ကျွန်တော်မျိုးအား ဖန်ဆင်းတော်မူခဲ့ပြီး ကျွန်တော်မျိုးသည်လည်း အရှင်မြတ်၏ ကျေးကျွန်သာဖြစ်ပါ၏။ ကျွန်တော်မျိုးသည် အရှင်မြတ်ကိုသာ (အီမာန်ယုံကြည်ပါမည်ဟု ပေးထားသည့်ကတိကဝတ်အား) အတတ်နိုင်ဆုံးလိုက်နာပါမည်။ မိမိပြုလုပ်ခဲ့သည့်ကိစ္စများ၏ ဆိုးကျိုးများမှလည်း အရှင်မြတ်ထံတော်ပါး တွင်သာ ခိုလှုံပါ၏။ အရှင်မြတ်ချီးမြင့်ထားသောစည်းစိမ်များ၏ကျေးဇူးတရားများကိုလည်း ကျွန်တော်မျိုးသည် နားလည်အသိမှတ်ပြုပါ၏။ ကျွန်တော်မျိုးသည် မိမိအပြစ်များကို အရှင်မြတ်ထံတော်ပါးတွင်ဝန်ခံပါ၏။ အရှင်မြတ်သည် ကျွန်တော်မျိုး၏အပြစ်များကို ခွင့်လွှတ်ချမ်းသာပေးတော်မူပါ။ အရှင်မြတ်မှလွဲ၍ မည်သူကမျှ အပြစ်များကို ခွင့်လွှတ်ပေးနိုင်ခြင်း အလျဉ်းမရှိပါ။ တမန်တော်မြတ်ﷺက ဆက်လက်အမိန့်ရှိသည် မှာ. မည်သူမဆို အထက်ပါဒိုအာများကို ယုံကြည်စွာဖြင့် မနက်ခင်းတောင်းခံ၍ ညနေခင်း မရောက်မီသေဆုံးသွားပါက ထိုသူသည် ဂျန္နသ်သီဖြစ်ပေမည်။ထိုနည်းအတိုင်း ညနေခင်းတွင်တောင်းခံ၍ မနက်ခင်းမရောက်မီ သေဆုံးသွားပါကလည်း ဂျန္နသ်သီဖြစ်သွားပေမည်။ (ဗိုခါရီကျမ်း)

---

(٦٤) أخرجه البخاري في كتاب الدعوات، باب أفضل الاستغفار.

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| ဝန်ခံခြင်း၊အသိအမှတ်ပြုခြင်း | باء (ن) بَوْءًا |
| ပြည့်ဝစွာယုံကြည်ခြင်း | أوقن (إفعال) إِيْقَانًا |
| ခေါင်းဆောင် | سَيِّدٌ (ج) سَادةٌ وسَيَايِدُ |

## (٦٥) الحديث الخامس والستون

عَـن أَبِـيْ هُـرَيـرَةَ (رَضِيَ اللّٰهعَنْهُ) قَالَ: قَالَ رَسُوْلُ اللّٰهِ ﷺ : اللّٰهُمَّ إِنِّيْ أَعُوْذُ بِكَ مِنْ عِلْمٍ لَا يَنْفَعُ وَمِنْ قَلْبٍ لَا يَخْشَعُ وَمِن نَفْسٍ لَا تَشْبَعُ وَمِن دُعَاءٍ لَا يُسْمَعُ .

﴿رواه النسائي﴾

**အဓိပ္ပါယ်**

ဟဇရတ်အဗူဟိုရိုင်ရားဟ် ﵁ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . အိုအရှင်၊ ကျွန်တော်မျိုးသည် အကျိုးမပြုသောပညာရပ်များမှလည်းကောင်း၊ ရိုကျိုးမှုမရှိသောနှလုံးသားမှလည်းကောင်း၊ မတင်းတိမ်သော စိတ်ဆန္ဒမှလည်းကောင်း၊ လက်ခံခြင်းမရှိသောဒိုအာမှ လည်းကောင်း၊ အရှင်မြတ်ထံတော်ပါးတွင်ခိုလှုံပါ၏။ (နဆာအီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| အကျိုးပြုခြင်း | نفَعَ (ف) نَفْعًا |
| ဗိုက်ပြည့်ခြင်း၊ပြည့်ဝခြင်း | شبِعَ (س) شِبْعًا |
| အောက်ကျို့ခြင်း၊ရိုကျိုးခြင်း | خَشَعَ (ف) خُشُوْعًا |

(٦٥) أخرجه النسائي في كتاب الاستعاذة، باب الاستعاذة من دعاء لايسمع.

## (٦٦) الحديث السادس والستون

عَن شَكَلِ بنِ حُمَيْدٍ ( رَضِيَ اللّٰهعَنْهُ) قَالَ: أَتَيْتُ النَّبِيَّ ﷺ ، فَقُلْتُ يَا نَبِيَّ اللَّهِ عَـلِّمنِيْ تَعَوُّذًا أَتَعَوَّذُ بِهِ، فَأَخَذَ بِيَدِيْ ثُمَّ قَالَ : قُلْ أَعُوْذُ بِكَ مِن شَرِّ سَمْعِيْ وَشَرِّ بَصَرِيْ وَشَرِّ لِسَانِيْ وَشَرِّ قَلبِيْ وَشَرِّ مَنِيِّي ـ قَالَ حَتّٰى حَفِظْتُهَا. ﴿ رواه النسائي ﴾

### အဓိပ္ပါယ်

ဟဇရသ်ရှကလေ့ဗ်နေ့ဟိုမိုင်းဒ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။ကျွန်တော်သည် တမန်တော်မြတ်ﷺထံတော်ပါးသို့သွားရောက်၍ အိုအလ္လာဟ်အရှင်မြတ်၏တမန်တော်၊(အလ္လာဟ်အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံနိုင်ရန်) တောင်းခံရမည့်ဒိုအာများကို ကျွန်တော်မျိုးအား သင်ပြပေး တော်မူပါဟု လျှောက်ထားခဲ့သည်။ထိုအခါ ကိုယ်တော်ကသင်ပေးသည်မှာ. . အသင် ရွတ်ဆိုပါ။ အိုအရှင်၊ ကျွန်တော်မျိုးသည် မိမိသောတအာရုံ၏ ဆိုးကျိုးများမှလည်းကောင်း၊ စက္ခုအာရုံ၏ ဆိုးကျိုးများမှလည်းကောင်း၊နှုတ်လျှာ၏ ဆိုးကျိုးများမှလည်းကောင်း၊ နှလုံးသား၏ ဆိုးကျိုးများမှလည်းကောင်း၊ သုတ်ရည်၏ ဆိုကျိုးများမှလည်းကောင်း အရှင်မြတ်ထံတော်ပါးတွင်ခိုလှုံပါ၏။နောက်ဆုံးတွင် ကျွန်တော်သည် ထိုဒိုအာများကို အလွတ်ကျက်မှတ်ခဲ့သည်။ (နဆာအီကျမ်း)

### ကျက်မှတ်ရန်ခက်ဆစ်များ

| | |
|---|---|
| مَنِيٌّ (ج) مُنْيٌ | သုတ်ရည် |

## (٦٧) الحديث السابع والستون

عَـن أَبِـي هُرَيرَةَ ( رَضِيَ اللّٰهعَنْهُ) قَالَ: كَانَ رَسُولُ اللَّهِ ﷺ يَقُوْلُ: اللَّهُمَّ إِنِّيْ أَعُوْذُ بِكَ مِنَ الجُوْعِ فَإِنَّهُ بِئْسَ الضَّجِيعُ وَمِنَ الخِيَانَةِ فَإِنَّهَا بِئْسَتِ البِطَانَةُ . ﴿ رواه النسائي ﴾

### အဓိပ္ပါယ်

ဟဇရသ်အဗူဟိုရိုင်ရားဟ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺသည် (ဤဒိုအာကို)အမြဲတောင်းလေ့ရှိတော်မူခဲ့သည်။ အိုအရှင်၊ ကျွန်တော်မျိုးသည် ဆာလောင်

---

(٦٦) أخرجه النسائي في كتاب الاستعاذة ، باب الاستعاذة من شر السمع والبصر.

(٦٧) أخرجه النسائى فى كتاب الاستعاذة، باب الاستعاذة من الخيانة.

မွတ်သိပ်မှုမှလည်းကောင်း၊ သစ္စာဖောက်ခြင်းမှလည်းကောင်း အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။ ဆောင်လောင်မွတ်သိပ်မှုသည် မကောင်းသောအဖော်ဖြစ်ပြီး၊သစ္စာဖောက်ခြင်း သည် ဖုံးကွယ်နေသည့် အကျင့်ဆိုးဖြစ်သည်။(နဆာအီကျမ်း)

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| လဲလျောင်းခြင်း | ضجع (ف) ضَجْعًا |
| သစ္စာမဲ့ခြင်း | خان (ن) خِيَانَةً |
| ဖုံးကွယ်နေခြင်း | بطن (ك) بِطَانَةً |

## (٦٨)الحديث الثامن والستون

عَـن أَبِيْ هُرَيْرَةَ ( رَضِيَ اللّٰهعَنْهُ) أَنَّ رَسُوْلَ اللَّهِ ﷺ قَالَ: مَنْ قَالَ لَا إِلَهَ إِلَّا اللَّهُ وَحدَهُ لَا شَرِيكَ لَهُ لَهُ المُلكُ وَلَهُ الحَمدُ وَهوَ عَلَى كُلِّ شَىءٍ قَدِيرٌ - فِيْ يَوْمٍ مِائَة مَرَّةٍ كَانَتْ لَهُ عَدْلَ عَشْرِ رِقَابٍ وَكُتِبَ لَهُ مِائَةُ حَسَنَةٍ وَمُحِيَتْ عَنْهُ مِائَةُ سَيِّئَةٍ وَكَانَتْ لَهُ حِـرْزًا مِـنَ الشَّيـطَـانِ يَـومَـهُ ذَلِكَ حَتَّى يُمْسِيَ وَلَمْ يَأتِ أَحَدٌ بِأَفْضَلَ مِمَّا جَاءَ بِهِ إِلَّا رَجُلٌ عَمِلَ أَكثَرَ مِنهُ. ﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရားဟ်ﷺသခင်က ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့် တော်မူသည်မှာ. . မည်သူမဆို (ဤဒိုအာ) لَا إِلَـهَ إِلَّا اللَّهُ وَحدَهُ لَا شَرِيكَ لَهُ لَهُ المُلكُ وَلَـهُ الحَمدُ وَهوَ عَلَى كُلِّ شَىءٍ قَدِير ကိုတစ်နေ့တွင်အကြိမ်(၁၀၀)ဖတ်ရွတ်ပါက ထိုသူ သည် ကျွန်(၁၀)ယောက်အား သူကောင်းပြုသည့် ကုသိုလ်ရရှိပေမည်။ထို့နောက်ထိုသူ အတွက် ကောင်းမှုကုသိုလ် (၁၀၀) ရေးမှတ်ခြင်းခံရမည်ဖြစ်ပြီး၊ မကောင်းမှု (၁၀၀) ပယ် ဖျက်ခြင်းခံရပေမည်။ မနက်ခင်းမှစ၍ညနေတိုင်အောင် ရှိုင်သွာန်၏နှောက်ယှက်မှုမှ ကာကွယ်စောင့်ရှောက်မှုရပေမည်။ ထိုသူထက်ပို၍အမလ်ပြုလုပ်သူမှလွဲ၍ အခြားမည်သူ ကမျှ ထိုသူကဲ့သို့ လုပ်ဆောင်နိုင်မည်မဟုတ်ပေ။ (ဗိုခါရီကျမ်း)

---

(٦٨) أخرجه البخاري في كتاب الدعوات، باب فضل التهليل.

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| တရားမျှတခြင်း၊ညီမျှခြင်း | عَدل (ض) عَدْلًا |
| ကျွန်၊လည်ဂုတ် | رَقَبَةٌ (ج) رِقَابٌ |
| ထိန်းသိမ်းထားခြင်း | حَرَزَ (ن) حِرْزًا |

## (٦٩) الحديث التاسع والستون

عَـنْ أَبِي اليَسَرِ (رَضِيَ اللّٰهعَنْهُ) قَالَ: كَانَ رَسُولُ للّٰهِ ﷺ يَقُولُ: اللَّهُمَّ إِنِّيْ أَعُوْذُ بِكَ مِـنَ التَّـرَدِّي وَالهَدْمِ وَالغَرَقِ وَالحَرِيْقِ وَأَعُوذُ بِكَ أَنْ يَتَخَبَّطَنِيْ الشَّيطَانُ عِنْدَ المَوْتِ وَأَعُوْذُ بِكَ أَنْ أَمُوْتَ فِيْ سَبِيْلِكَ مُدْبِرًا وَأَعُوْذُ بِكَ أَنْ أَمُوْتَ لَدِيْغًا. ﴿رواه النسائي﴾

**အဓိပ္ပါယ်**

ဟဇရတ်အဗူလ်ယစရ်ﷺ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺ သည် (ဤဒိုအာကို)အမြဲတောင်းခံတော်မူခဲ့လေသည်။ အိုအရှင်၊ကျွန်တော်မျိုးသည် နိမ့်ကျသွားခြင်းမှလည်းကောင်း၊ ပျက်ဆီးဆုံးရှုံးသွားခြင်းမှလည်းကောင်း၊ နစ်မြုပ်ပျက်ဆီးခြင်းမှလည်းကောင်း၊လောင်ကျွမ်းပျက်ဆီးသွားခြင်းမှလည်းကောင်း၊ အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။ အိုအရှင်၊ကျွန်တော်မျိုးသည် သေဆုံးမည့်အချိန်တွင် ရှိုင်သွာန်၏နှောက်ယှက်ဖမ်းစားခြင်းမှလည်း အရှင်မြတ်ထံတော်ပါးတွင် ခိုလှုံပါ၏။ အိုအရှင်၊ ကျွန်တော်မျိုးသည် အရှင်မြတ်၏လမ်းတော်မှ လှည့်ပြေးသူအဖြစ် သေဆုံးခြင်းမှလည်းကောင်း၊ (အဆိပ်ရှိသောသတ္တဝါများ) အကိုက်ခံရသူအဖြစ်သေဆုံးခြင်းမှလည်းကောင်း၊ အရှင်မြတ်ထံတော်ပါးတွင်သာ ခိုလှုံပါ၏။ (နဆာအီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| နိမ့်ကျသွားခြင်း | تَرَدّى (تفعّل) تَرَدِّياً |
| ဖျက်ဆီးလိုက်ခြင်း၊ ဖြိုကြလိုက်ခြင်း | هدم (ض) هَدْمًا |

(٦٩) أخرجه النسائي في كتاب الاستعاذة : باب الاستعاذة من التردي والهدم.

| | |
|---|---|
| غرق (س) غَرَقًا | နစ်မြုပ်သွားခြင်း |
| حرق (ن / ض) حَرْقًا | လောင်ကျွမ်းခြင်း |
| تَخبَّط (تفعل) تخَبُّطًا | အသိဉာဏ်မှောက်မှားသွားအောင်ဖမ်းစားခြင်း |
| أَدْبر (إفعال) إدْبارًا | နောက်ပြန်လှည့်ခြင်း |

## (٧٠) الحديث السبعون

عَـنْ عَـائِشَةَ ( رَضِـيَ اللّٰهعَـنْهَـا) قَـالَـتْ : كَانَ النَّبِيُّ ﷺ إِذَا رَأَى الرِّيْحَ، قَالَ : الـلَّهُـمَّ إِنِّـيْ أَسْأَلُكَ مِنْ خَيْرِهَا وَخَيْرِ مَا فِيهَا وَخَيْرِ مَا أُرسِلَتْ بِهِ وَأَعُوذُ بِكَ مِن شَرِّهَا وَشَرِّ مَا فِيهَا وَشَرِّ مَا أُرْسِلَتْ بِهِ .﴿رواه الترمذي﴾

### အဓိပ္ပါယ်

ဟဇရသ်အာအေ့ရှာﷺသခင်မကဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ်ﷺသည် လေပြင်းတိုက်ခတ်သောအခါ (ဤဒိုအာ)ကို အမြဲရွတ်ဖတ်တော်မူခဲ့လေသည်။ အိုအရှင်၊ ကျွန်တော်မျိုးသည် ထိုလေ၏ကောင်းခြင်းများကိုလည်းကောင်း၊ထိုလေ၌ ရှိသောကောင်းခြင်းများကိုလည်းကောင်း၊ ထိုလေနှင့်အတူပါလာသောကောင်းခြင်းများကို လည်းကောင်း၊ အရှင်မြတ်ထံတော်ပါး၌ တောင်းခံပါ၏။ အိုအရှင်၊ ထိုလေ၏ ဆိုကျိုးအန္တရာယ်များမှလည်းကောင်း၊ ထိုလေ၌ရှိသောဆိုကျိုးများမှလည်းကောင်း၊ ထိုလေနှင့်အတူပါလာသောဆိုးကျိုးများမှ လည်းကောင်း၊ကျွန်တော်မျိုးသည် အရှင်မြတ်ထံပါး၌ခိုလှုံပါ၏။

(သေ့ရ်မိဇီကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| رِيْحٌ (ج) رِيَاحٌ و أَرْيَاحٌ | လေ |
| أرسل (إفعال) إرْسالاً | စေလွှတ်ခြင်း |

(٧٠) أخرجه الترمذي في كتاب الدعوات، باب مايقول إذا هاجت الريح.

## (٧١)الحديث الحادي والسبعون

عَـن عُـمَـرَ ( رَضِـيَ اللّٰهعَـنْهُ) أَنَّ رَسُولَ اللَّهِ ﷺ :كَانَ إِذَا سَمِعَ صَوْتَ الرَّعْدِ وَالصَّوَاعِقِ، قَالَ : اللَّهُمَّ لاَ تَقْتُلْنَا بِغَضَبِكَ وَلاَ تُهْلِكْنَا بِعَذَابِكَ وَعَافِنَا قَبْلَ ذَلِكَ .

﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အိုမရ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် မိုးချုန်းသံနှင့်မိုးကြိုးပစ်သံများကိုကြားရသောအခါတိုင်း (ဤဒိုအာကို)ရွတ်ဖတ်တော်မူခဲ့လေသည်။ အိုအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား မိမိ၏အမျက်တော်ဖြင့် မသတ်ပစ်ပါနှင့်။ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အားမိမိပြစ်ဒဏ်များဖြင့် မဖျက်ဆီးပါနှင့်။ အိုအရှင်၊ ကျွန်တော်မျိုးတို့အားထိုပြစ်ဒဏ်မလာမီအလျှင်ခွင့်လွှတ်ချမ်းသာပေးတော်မူပါ။(သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| مိုးချုန်းခြင်း | رعد (ف/ن) رَعْدًا و رُعُوْدًا |
| ပျက်ဆီးခြင်း၊ ပြင်းထန်ခြင်း | صعق (س) صَعْقًا |
| မိုးကြိုးပစ်သံ | صاعِقَةٌ (ج) صَوَاعِقُ |

## (٧٢) الحديث الثاني والسبعون

عَـن أَبِـيْ سَعِيدٍ الخُدرِيِّ ( رَضِيَ اللّٰهعَنْهُ) أَنَّهُ سَمِعَ رَسُولَ اللَّهِ ﷺ يَقُولُ: إِذَا رَأَى أَحَدُكُمْ الرُّؤيَا يُحِبُّهَا، فَإِنَّهَا مِنَ اللَّهِ فَلْيَحمَدِ اللَّهَ عَلَيْهَا، وَلْيُحَدِّثْ بِهَا، وَإِذَا رَأَى غَيْـرَ ذَلِكَ مِـمَّا يَكْرَهُ فَإِنَّمَا هِيَ مِنَ الشَّيطَانِ فَلْيَستَعِذْ مِنْ شَرِّهَا وَلَا يَذْكُرْهَا لأَحَدٍ، فَإِنَّهَا لَنْ تَضُرَّهُ . ﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူစအီးဒ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်ကို ကြားသိခဲ့ရသည်မှာ. . အသင်တို့တစ်ဦးဦးသည် မိမိနှစ်သက်သော အိပ်မက်ကို

(٧١)أخرجه الترمذي في كتاب الدعوات، باب مايقول إذا سمع الرعد.

(٧٢) أخرجه البخاري في كتاب التعبير، باب إذا مايكره فلا يخبر بها......

မြင်မက်သောအခါ အလ်ဟမ်ဒိုလေ့လာဟ်ဖတ်ပါ။ ထိုအိမ်မက်သည် အလ္လာဟ်အရှင် မြတ်ဘက်တော်မှ လာသောအိမ်မက်ဖြစ်ပြီး၊ ပြန်လည်ပြောကြားလိုပါက ပြောကြားပါ။ အကယ်၍ မိမိမနှစ်သက်သောအိပ်မက်ဖြစ်နေပါလျှင် ထိုအိပ်မက်၏ဆိုကျိုးများမှ အလ္လာဟ်အရှင်မြတ်၏ ထံတော်ပါး၌ခိုလှုံခွင့်တောင်းခံပါ။ထိုအိပ်မက်သည် ရှိုင်သွာန်၏ နှောက်ယှက် မှုဖြစ်သောကြောင့်အခြားသူများအား လုံးဝမပြောပြပါနှင့်။ ထိုအိပ်မက်သည် မည်သည့် ဒုက္ခ ဆိုးကျိုးကိုမျှ ပေးနိုင်လိမ့်မည်မဟုတ်ပေ။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| رُؤْيا (ج) رُؤًى | အိမ်မက် |
| ضَرَّ (ن) ضَرًّا | ဆိုးကျိုးပြုခြင်း |

## (٧٣) الحديث الثالث والسبعون

عَن عَائِشَةَ (رَضِيَ اللّٰهعَنْهَا) قَالَتْ : كَانَ رَسُولُ اللَّهِ ﷺ يَقُوْلُ : اللَّهُمَّ عَافِنِيْ فِيْ جَسَدِيْ وَعَافِنِيْ فِيْ بَصَرِيْ وَاجْعَلْهُ الوَارِثَ مِنِّيْ لَا إِلَهَ إِلَّا اللَّهُ الحَلِيمُ الكَرِيمُ سُبحَانَ اللَّهِ رَبِّ العَرشِ العَظِيمِ وَالحَمدُ لِلَّهِ رَبِّ العَالَمِينَ . ﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အာအေ့ရှာ ﷺ သခင်မကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ သည် (ဤဒိုအာကို) အမြဲတောင်းတော်မူလေသည်။အိုအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုး၏ ကိုယ်ခန္ဓာကိုလည်းကောင်း၊အမြင်အာရုံကိုလည်းကောင်းရောဂါအပေါင်းမှကင်းဝေးစေတော်မူပါ။ အိုအရှင်၊ကျွန်တော်မျိုး၏ အမွေစားအမွေခံများကို ပြုလုပ်ပေးတော်မူပါ။ ထို့နောက် ဤဒိုအာကို لَا إِلَهَ إِلَّا اللَّهُ الحَلِيمُ الكَرِيمُ سُبحَانَ اللَّهِ رَبِّ العَرشِ العَظِيمِ وَالحَمدُ لِلَّهِ رَبِّ العَالَمِين ရွတ်ဖတ်တော်မူလေသည်။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| عَرْشٌ (ج) أَعْرَاشٌ وعُرُوْشٌ | ပလ္လင် |
| حليمٌ | ထောက်ထားညှာတာတော်မူသောအရှင် |

---

(٧٣) أخرجه الترمذي في كتاب الدعوات، باب "اللهم عافنى في جسدي...."

## (٧٤) الحديث الرابع والسبعون

عَـن أَبِـي هُـرَيـرَةَ (رَضِـيَ اللّٰهعَنْهُ) قَالَ: جَائَتْ فَاطِمَةُ (رَضِيَ اللّٰهعَنْهَا) إِلَى النَّبِـيِّ ﷺ تَسْأَلُهُ خَادِمًا، فَقَالَ لَهَا : قُولِيْ، اللَّهُمَّ رَبَّ السَّمَوَاتِ السَّبعِ وَرَبَّ العَرْشِ العَظِيْمِ ، رَبَّنَا وَرَبَّ كُلِّ شَيْءٍ ، مُنْزِلَ التَّوراةِ وَالإِنجِيْلِ وَالقُرآن ، فَالِقَ الحَبِّ وَالنَّوٰى، أَعُـوْذُ بِكَ مِنْ شَرِّ كُلِّ شَيْءٍ أَنْتَ آخِذٌ بِنَاصِيَتِهِ، أَنتَ الأَوَّلُ فَلَيْسَ قَبْلَكَ شَيْءٌ ، وَأَنتَ الآخِـرُ فَـلَيْـسَ بَـعْـدَكَ شَـيْءٌ ، وَأَنـتَ الظَّاهِرُ فَلَيْس فَوْقَكَ شَيْءٌ، وَأَنْتَ البَاطِنُ فَلَيْسَ دُونَكَ شَيْءٌ، اِقْضِ عَنِّيْ الدَّيْنَ وَأَغْنِنِيْ مِنَ الفَقْرِ . ﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရားဟ် ﵁ သခင်ကဆင့်ပြန်ခဲ့သည်။ဟဇရသ်ဖာသွေမာဟ် ﵂ သခင်မသည်တမန်တော်မြတ်ﷺထံတော်ပါးသို့ သွားရောက်ခစား၍ အခိုင်းအစေတစ်ဦး တောင်းခံခဲ့ရာ တမန်တော်မြတ်ﷺက သခင်မအား အမိန့်ရှိသည်မှာ. . အသင်မအနေ ဖြင့်(ဤဒိုအာများကို) ရွတ်ဖတ်ပါ။အိုအရှင်၊ မိုးကောင်းကင် (၇)ထပ်ကိုစိုးပိုင်တော်မူသော အရှင်၊ကြီးကျယ်ခမ်းနားလှသော ပလ္လင်တော်ကိုပိုင်ဆိုင်တော်မူသောအရှင်၊ကျွန်တော်မျိုးတို့နှင့် အရာအားလုံးကို မွေးမြူစောင့်ရှောက်တော်မူသောအရှင်၊ ကုရ်အာန်ကျမ်း၊ အင်န်ဂျီလ်ကျမ်း၊သောင်ရားသ်ကျမ်းတို့ကို ချပေးသနားတော်မူသောအရှင်၊မျိုးစေ့များနှင့် သစ်စေ့များကို(အညှောင့်အတက်ထွက်စေရန်) အက်ကွဲစေတော်မူသောအရှင်၊ ကျွန်တော်မျိုးသည် အရာရာတိုင်း၏ ဆိုးကျိုးများမှ အရှင်မြတ်ထံတော်ပါး၌ ခိုလှုံပါ၏။ထိုအရာအားလုံးတို့သည် အရှင်မြတ်၏လက်ဝယ်၌သာရှိတော်မူပါ၏။အရှင်မြတ်သည် ဦးဆုံးတည်ရှိတော်မူသောအရှင်ဖြစ်ပါ၏။အရှင်မြတ်၏အလျှင်မည်သည့်အရာမျှ အလျဉ်းမရှိပါ။ အရှင်မြတ်သည် နောက်ဆုံးတည်ရှိတော်မူမည့်အရှင်လည်းဖြစ်ပါ၏။အရှင်မြတ်၏နောက်တွင် မည်သည့်အရာမျှအလျဉ်းမရှိနိုင်ပါ။အရှင်မြတ်သည် အရာအားလုံးတို့အပေါ်လွှမ်းမိုးနိုင်တော်မူသောအရှင်ဖြစ်တော်မူပါ၏။အရှင်မြတ်အပေါ်၌ မည်သည့်အရာမျှ အလျဉ်းမရှိနိုင်ပါ။အရှင်မြတ်သည်အရာအားလုံးကို ထိုးထွင်းမြင်နိုင်တော်မူသောအရှင်မြတ်ဖြစ်ပါ၏။ အရှင်မြတ်၏ရှေ့တွင်မည်သည့်အရာမျှ အလျဉ်းအကာအကွယ်မပြုနိုင်ပါ။ သို့ဖြစ်ရာ

---

(٨١) أخرجه الترمذي في كتاب الدعوات، باب اللهم رب السماوات والسبع.......

အရှင်မြတ်သည် ကျွန်တော်မျိုး၏ကြွေးမြီးများကို ကြေးအေးစေတော်မူပါ။ ကျွန်တော်မျိုးအား ဆင်းရဲကျပ်တည်းခြင်းမှ ကယ်တင်စောင့်ရှောက်တော်မူပါ။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| فلق (ض) فَلْقًا | ခွဲခြင်း |
| حَبَّةٌ (ج) حَبٌّ و حُبُوْبٌ | မျိုးစေ့ |
| نَواةٌ (ج) نَوًى | သစ်စေ့ |
| قضى (ض) قضاءً | ဖြည့်ဆည်းခြင်း |
| دَيْنٌ (ج) دُيُوْنٌ | အကြွေး |

## (٧٥) الحديث الخامس والسبعون

عَنْ أَبِي الدَّرْدَاءِ (رَضِيَ اللّٰهُ عَنْهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ : كَانَ مِنْ دُعَاءِ دَاوُدَ يَقُوْلُ: اللَّهُمَّ إِنِّي أَسْأَلُكَ حُبَّكَ وَحُبَّ مَنْ يُحِبُّكَ وَالعَمَلَ الَّذِي يُبَلِّغُنِي حُبَّكَ، اللَّهُمَّ اجْعَلْ حُبَّكَ أَحَبَّ إِلَيَّ مِنْ نَفسِيْ وَأَهْلِيْ وَمِنَ المَاءِ البَارِدِ . ﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဒရ်ဒါအ် ﷺ သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ ကမိန့်တော်မူသည်မှာ တမန်တော်ဒါဝူးဒ်အလိုင်းဟစ်စလာမ်၏ တောင်းဆိုခဲ့သည့် ဒိုအာများအနက် တစ်ခုမှာ. . အိုအရှင်၊ကျွန်တော်မျိုးသည် အရှင်မြတ်၏ချစ်ခင်မှုအားလည်းကောင်း၊အရှင်မြတ်ကို ချစ်ခင်သော ပုဂ္ဂိုလ်များ၏ ချစ်ခင်မှုအားလည်းကောင်း၊အရှင်မြတ်၏ ချစ်ခင်မှုကိုဖြစ်စေသောလုပ်ရပ်များအားလည်းကောင်း၊ အရှင်မြတ်ထံတော်ပါး၌ တောင်းခံပါ၏။ အိုအရှင်၊အရှင်မြတ်၏ချစ်ခင်မှုအားကျွန်တော်မျိုးအတွက် မိမိအသက်ထက်လည်းကောင်း၊ မိမိအိမ်သူအိမ်သားများထက်လည်းကောင်း၊ အေးမြသောရေထက်လည်းကောင်း၊ သာပိုနှစ်သက်ဖွယ်ကောင်းသော အရာအဖြစ် ပြုလုပ်ပေးတော်မူပါ။ (သေ့ရ်မီဇီကျမ်း)

---

(٧٤) أخرجه الترمذي في كتاب الدعوات، باب دعاء داود عليه السلام.

## (٧٦)الحديث السادس والسبعون

عَـنْ سَـعْدٍ ( رَضِيَ اللّٰهعَنْهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ : دَعْوَةُ ذِي النُّوْنِ إِذْ دَعَا وَهُـوَ فِـيْ بَـطْـنِ الـحُوْتِ، ـ لَا إِلَهَ إِلَّا أَنْتَ سُبْحَانَكَ إِنِّيْ كُنْتُ مِنَ الظَّالِمِينَ ـ فَإِنَّهُ لَم يَدْعُ بِهَا رَجُلٌ مُسْلِمٌ فِيْ شَيءٍ قَطُّ إِلَّا استَجَابَ اللَّهُ لَهُ. ﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်စအဒ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . ငါးဝမ်းဗိုက်အတွင်းရှိနေစဉ် ငါးရှင်အမည်ရ (တမန်တော်ယူနွစ်)၏ တောင်းဆုဒိုအာမှာ…… အရှင်မြတ်မှအပအခြားကိုးကွယ်ခံထိုက်သူဟူ၍ အလျဉ်းမရှိပါ။အရှင်မြတ်သည် အလွန်သန့်ရှင်းစင်ကြယ်တော်မူပါ၏။ကျွန်တော်မျိုးသည်သာ အပြစ်ကျူးလွန်သူဖြစ်ပါ၏။သို့ရှိရာ မွတ်စ်လင်မ်တစ်ဦးသည် မည်သည့်ကိစ္စရပ်၌မဆို အထက်ပါဒိုအာကို တောင်းခဲ့မည်ဆိုပါက အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ဒိုအာကို မုချလက်ခံတော်မူပေမည်။ (သေ့ရ်မိဇီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| بطْنٌ (ج) أبْطُنٌ وبُطُوْنٌ | ဝမ်းဗိုက် |
| حُوْتٌ (ج) حِيْتَانٌ | ငါးကြီး |

## (٧٧) الحديث السابع والسبعون

عَـنْ عَـائِشَةَ ( رَضِـيَ اللّٰهعَـنْهَـا) قَالَتْ: كُنْتُ نَائِمَةً إِلَى جَنْبِ رَسُولِ اللَّهِ ﷺ فَفَـقَـدْتُـهُ مِنَ اللَّيلِ ، فَلَمَسْتُهُ فَوَقَعَتْ يَدِيْ عَلَى قَدَمَيْهِ وَهُوَ سَاجِدٌ وَهُوَ يَقُولُ : أَعُوذُ بِـرِضَـاكَ مِن سَخَطِكَ وَبِمُعَافَاتِكَ مِن عُقُوبَتِكَ لَا أُحْصِيْ ثَنَاءً عَلَيْكَ أَنتَ كَمَا أَثْنَيْتَ عَلَى نَفسِكَ .﴿رواه الترمذي﴾

(٧٦) أخرجه الترمذي في كتاب الدعوات، باب دعوة ذي النون في بطن الحوت

(٧٧) أخرجه الترمذي في كتاب الدعوات،باب أعوذ برضاك من سخطك.

**အဓိပ္ပါယ်**

ဟဇရသ်အာအေ့ရှာဟ် ﷺသခင်မဆင့်ပြန်ခဲ့သည်။ကျွန်မသည် တမန်တော်မြတ် ﷺ၏ဘေးဖက်တွင်အိပ်ပျော်နေခဲ့သည်။ကျွန်မ(သတိရလာသောအခါ) တမန်တော်မြတ် ﷺအားအနီးအနားတွင် မတွေ့ရသဖြင့် စမ်းသပ်ကြည့်ရာ တမန်တော်မြတ်ﷺ ခြေတော်အား ကျွန်မ၏လက်ဖြင့် ကိုင်မိသွားလေသည်။ထိုအချိန်တွင် တမန်တော်မြတ်ﷺသည် စဂျ်ဒဟ် ဦးချနေ၍ (ဤဒိုအာကို)ရွတ်ဖတ်နေတော်မူလေသည်။(အိုအရှင်) ကျွန်တော်မျိုးသည် အရှင်မြတ်၏အမျက်တော်အား အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုဖြင့်လည်းကောင်း၊ အရှင်မြတ်၏ပြစ်ဒဏ်ခတ်ခြင်းအား အရှင်မြတ်၏ခွင့်လွှတ်ပေးခြင်းပေးဖြင့်လည်းကောင်း ခိုလှုံပါ၏။ ကျွန်တော်မျိုးသည် အရှင်မြတ်အား အရှင်မြတ်ကိုယ်တော်တိုင်ချီးမွမ်းသကဲ့သို့ (ပြည့်ဝစွာ) ချီးမွမ်းနိုင်ခြင်းမရှိပါ။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| لمس (ض) لَمْسًا | ကိုင်တွယ်ထိတွေ့ခြင်း |
| أحصى (إفعال) إحْصاءً | ရေတွက်ခြင်း |

## (٧٨) الحديث الثامن والسبعون

عَـنْ عَبْـدِ اللَّه ابنَ عُمَرَ ( رَضِيَ اللّٰهعَنْهُمَا) قَالَ قَلَّمَا كَانَ رَسُولُ اللَّهِ ﷺ يَقُوْمُ مِـنْ مَـجْلِسٍ حَتَّى يَدْعُوَ بِهؤُلاَءِ الكَلِمَاتِ لأَصحَابِهِ ، اللَّهُمَّ اقْسِمْ لَنَا مِنْ خَشْيَتِكَ مَا يَـحُـوْلُ بَيْنَنَا وَبَيْنَ مَعَاصِيكَ، وَمِنْ طَاعَتِكَ مَا تُبَلِّغُنَا بِهِ جَنَّتَكَ، وَمِنَ اليَقِيْنِ مَا تُهَوِّنُ بِهِ عَـلَيْـنَـا مُـصِيْبَاتِ الدُّنيا، وَمَتِّعْنَا بِأَسْمَاعِنَا وَأَبْصارِنَا وَقُوَّتِنَا مَا أَحْيَيْتَنَا، وَاجْعَلْهُ الوَارِثَ مِـنَّـا، وَاجْـعَـلْ ثَـأْرَنَـا عَلَى مَنْ ظَلَمَنَا، وَانْصُرْنَا عَلَى مَنْ عَادَانَا وَلاَ تَجْعَلْ مُصِيْبَتَنَا فِي دِيْنِنَا، وَلاَ تَجْعَلِ الدُّنيَا أَكْبَرَ هَمِّنَا وَلاَ مَبْلَغَ عِلْمِنَا وَلاَ تُسَلِّطْ عَلَيْنَا مَنْ لاَ يَرْحَمُنَا .

﴿رواه الترمذي﴾

---

(٧٨) أخرجه الترمذي في كتاب الدعوات، باب اللهم اقسم لنا من خشيتك.

**အဓိပ္ပါယ်**

ဟဇရသ်အဗ်ဒွလ်လာဟ်ဗင့်န်အိုမရ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် ထိုင်ဝိုင်းတစ်ခုခုမှထသောအခါ မိမိအဆွေတော်များအတွက် ဤဒိုအာကို တောင်းပေးတော်မူလေသည်။ အိုအရှင်၊ အရှင်မြတ်သည် ကျွန်တော်မျိုးတို့အား အပြစ်များမှဝေးကွာစေသော အရှင်မြတ်၏အကြောက်တရားများကို ဝေငှပေးတော်မူပါ။အရှင်မြတ်၏သုခံဘုံသို့ အရောက်လှမ်းနိုင်မည့်အရှင်မြတ်၏အမိန့်နာခံမှုမျိုးကို ချီးမြင့်ပေးသနားတော်မူပါ။ လောက၏ဘေးဒုက္ခများကိုလည်း သာမညအဖြစ်ခံယူနိုင်မည့် ယုံကြည်မှုမျိုးကို ချီးမြင့်ပေးသနားတော်မူပါ။

အရှင်မြတ်သည် ကျွန်တော်မျိုးတို့အားအသက်ရှင်နေသရွေ့ သောတ အာရုံ၊ စက္ခုအာရုံနှင့်အင်အားတို့ဖြင့် အကျိုးခံစားခွင့်ချီးမြင့်ပေးတော်မူပါ။အရှင်မြတ်သည် ကျွန်တော်မျိုးတို့အတွက်အမွေစားအမွေခံများကိုလည်း ပြုလုပ်ပေးတော်မူပါ။ကျွန်တော်မျိုးတို့၏လက်စားချေမှုကို ကျွန်တော်မျိုးတို့အားအနိုင်ကျင့်သူများအပေါ်၌သာ ပြုလုပ်ပေးတော်မူပါ။ကျွန်တော်မျိုးတို့အား ရန်သူများအပေါ် အောင်နိုင်မှုကိုချီးမြင့်ပေးတော်မူပါ။ ကျွန်တော်မျိုးတို့၏ သာသနာရေးတွင် ဖစ်သ်နာများမပြုလုပ်တော်မူပါနှင့်။

အိုအရှင်၊ လောကီ ရေးရာကိစ္စများအား အဓိကကိစ္စရပ်များအဖြစ်လည်းကောင်း၊ ကျွန်တော်မျိုးတို့၏ အသိပညာအဆုံးအဖြစ်လည်းကောင်း မပြုလုပ်တော်မူပါနှင့်။ သနားညှာတာမှုမရှိသောသူများအား ကျွန်တော်မျိုးတို့အပေါ် လွှမ်းမိုးခွင့်ကို ပေးတော်မမူပါနှင့်။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| လက်စားချေခြင်း | ثَأَر (ف) ثَأْرًا |
| ရည်ရွယ်ခြင်း၊သောဖြစ်ခြင်း | هَمَّ (ن) هَمًّا وهُمُوْمًا |
| လွှမ်းမိုးစေခြင်း | سلط (تفعيل) تسليطاً |

## (٧٩) الحديث التاسع والسبعون

عَـن عَـلِيٍّ ( رَضِيَ اللّٰهُعَنْهُ) قَالَ: قَالَ لِي رَسُولُ اللَّهِ ﷺ : أَلَا أُعَلِّمُكَ كَلِمَاتٍ إِذَا قُـلْتَهُـنَّ غَفَرَ اللَّهُ لَكَ وَإِن كُنْتَ مَغفُورًا لَكَ ـ قَالَ: قُل لَا إِلَهَ إِلَّا اللَّهُ العَلِيُّ العَظِيمُ ، لَا إِلَهَ إِلَّا اللَّهُ الحَلِيْمُ الكَرِيْمُ ، لَا إِلَهَ إِلَّا اللَّهُ سُبحَانَ اللَّهِ رَبِّ العَرشِ العَظِيمِ .

﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အလီ(ရ)သခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည်ကျွန်တော်အား အမိန့်ရှိသည်မှာ. ငါကိုယ်တော်သည် အသင့်အားအချို့သော စာသားများမသင်ပေးရဘူး လား၊ထိုစာသားများကို အသင်ရွတ်ဆိုပါ အလ္လာဟ်အရှင်မြတ်သည် အသင်၏အပြစ်များ ကို ပလပ်ပေးမည်။ အကယ်၍အပြစ်များ ပလပ်ခဲ့ပြီးသားဖြစ်ပါက (အသင်၏အဆင့် အတန်းကိုမြင့်မားစေတော်မူလိမ်မည့်ဟု) မိန့်ကြား၍ အသင် (ဤဒိုအာကို)ဖတ်ပါ။

لاإِلَهَ إِلَّا اللَّهُ العَلِيُّ العَظِيمُ ، لَا إِلَهَ إِلَّا اللَّهُ الحَلِيْمُ الكَرِيْمُ ، لَا إِلَهَ إِلَّا اللَّهُ سُبحَانَ اللَّهِ رَبِّ العَرشِ العَظِيم

(သေ့ရ်မိဇီကျမ်း)

## (٨٠) الحديث الثمانون

عَـن أَبِـيْ سَـلَـمَة( رَضِيَ اللّٰهُعَنْهُ) أَنَّ رَسُولَ اللَّهِ ﷺ قَالَ : إِذَا أَصَابَ أَحَدَكُمْ مُـصِيْبَةٌ فَلْيَقُلْ : إِنَّا لِلَّهِ وَإِنَّا إِلَيهِ رَاجِعُونَ، اللَّهُمَّ عِنْدَكَ احْتَسَبْتُ مُصِيبَتِيْ فَأجُرْنِي فِيهَا، وَأَبْدِلْنِي مِنْهَا خيْرًا. ﴿ رواه الترمذي ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူစလ်မဟ်(ရ)သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော် မူသည်မှာ. . အသင်တို့သည် ဒုက္ခတစ်ခုခု ကြုံတွေ့သောအခါ (ဤဒိုအာကို)ရွတ်ဖတ်ပါ။ (အိုအရှင်) ကျွန်တော်မျိုးတို့အား အရှင်မြတ်သာပိုင်စိုးတော်မူပါ၏။ကျွန်တော်မျိုးတို့သည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့သာ ပြန်လှည့်မည့်သူများဖြစ်ပါ၏။ အိုအရှင်၊

---

(٧٩) أخرجه الترمذي في كتاب الدعوات،باب قول لاإله إلا اللّٰه العلي العظيم.

(٨٠) أخرجه الترمذي في كتاب الدعوات. باب قول إنا للّٰه وإنا إليه راجعون.

ကျွန်တော်မျိုးသည် မိမိဒုက္ခနှင့်ပက်သက်၍ အရှင်မြတ်ထံတော်ပါး၌သာ အကျိုးစဝါးဗ်ကိုမျှော်ကိုးပါ၏။အရှင်မြတ်သည် ကျွန်တော်မျိုးအား အကျိုးစဝါးဗ်ချီးမြှင့်တော်မူပါ။ ထိုဒုက္ခအစား ကောင်းမွန်သောအရာ ပြန်လည်ချီးမြှင့်တော်မူပါ။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| أجر (ن) أجْرًا | အဖိုးအခပေးခြင်း၊အကျိုးချီးမြှင့်ခြင်း |
| أبدل (إفعال) إبدالا | ပြောင်းလဲပေးခြင်း |

## (٨١) الحديث الحادي والثمانون

عَنِ ابْنِ عُمَرَ (رَضِيَ اللّٰهعَنهُمَا) قَالَ: كَانَ رَسُولُ اللَّهِ ﷺ إِذَا وَدَّعَ رَجُلاً أَخَذَ بِيَدِهِ، فَلاَ يَدَعُهَا حَتَّى يَكُونَ الرَّجُلُ هُوَ يَدَعُ يَدَ النَّبِيِّ ﷺ، وَيَقُولُ: أَسْتَودِعُ اللَّهَ دِيْنَكَ وَأَمَانَتَكَ وَآخِرَ عَمَلِكَ . ﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အှေ့ဗ်အိုမရ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် ပုဂ္ဂိုလ်တစ်ဦးဦးအား လမ်းခွဲနှုတ်ဆက်သောအခါ ထိုသူ၏လက်အား ဆုပ်ကိုင်ထားတော်မူလေသည်။ထိုသူသည် မိမိလက်ကိုပြန်မရုပ်သိမ်းသရွေ့ ကိုယ်တော်သည် ထိုသူ၏လက်အား ဦးစွာ လွတ်လိုက်ခြင်းမရှိပေ။ထိုနောက်ကိုယ်တော်သည် (ဤဒိုအာကို)ဖတ်တော်မူလေသည်။ ကျွန်တော်မျိုးသည် အသင်၏သာသနာအားလည်းကောင်း၊ အသင်၏အမာနသ်အားလည်းကောင်း၊ အသင်၏ နောက်ဆုံးလုပ်ရပ်များအားလည်းကောင်း၊ အရှင်မြတ်ထံတော်ပါးတွင် အပ်နှံပါ၏။ (သေ့ရ်မီဇီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| استودع (استفعال) استيداعًا | လွှဲအပ်ခြင်း |

---

(٨١) أخرجه الترمذي في كتاب الدعوات، باب مايقول إذا ودع إنسانا.

# (٨٢) الحديث الثاني والثمانون

عَـن عُـمَـرَ بـن الـخَـطَّابِ (رَضِيَ اللّٰهعَنْهُ) أَنَّ رَسُولَ اللَّهِ ﷺ قَالَ : مَنْ رَأَى صَاحِبَ بَلاَءٍ فَقَالَ : الحَمْدُ للّٰهِ الَّذِيْ عَافَانِي مِمَّا ابْتَلاَكَ بِهِ ، وَفَضَّلَنِيْ عَلَى كَثِيْرٍ مِمَّنْ خَلَقَ تَفضِيلاً، إِلَّا عُوفِيَ مِنْ ذَلِكَ البَلاَءِ ، كَائِنًا مَا كَانَ مَا عَاشَ .﴿ رواه الترمذي ﴾

## အဓိပ္ပါယ်

ဟဇရသ်အိုမရ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . မည်သူမဆို ဒုက္ခဝေဒနာခံစားရသူတစ်ဦးဦးအား တွေ့မြင်၍ အောက်ပါဒိုအာကိုရွတ်ဖတ်လိုက်မည်ဆိုပါကထိုသူသည်အသက်ရှင်သရွေ့မည်သည့်အခြေအနေတွင်ရှိနေပါမူ အလ္လာဟ်အရှင်မြတ်သည်ထိုသူအား ထိုဒုက္ခဝေဒနာမှကင်းလွတ်စေတော်မူမည်။"ချီးမွမ်းထောပနာမှု အလုံးစုံသည် အလ္လာဟ်အရှင်မြတ်အတွက်သာလျှင်ဖြစ်ပါသည်။ထိုအရှင်သည် အသင့်ကိုခံစားစေသောဒုက္ခများမှ ကျွန်တော်မျိုးအားကင်းလွတ်စေတော်မူခဲ့သည်။ ထိုအရှင်သည် ကျွန်တော်မျိုးအား မြောက်များစွာသော ဖန်ဆင်းခံများထက် သာလွန်ထူးကဲမှုကိုချီးမြင့်ထားပေသည်။" (သေ့ရ်မီဇီကျမ်း)

## ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| ابتلى (افتعال) ابتلاءً | ဝေဒနာဒုက္ခခံစားစေခြင်း |
| عافى (مفاعلة) معافاةً | ကင်းလွတ်စေခြင်း |

---

(٨٢) أخرجه الترمذي في كتاب الدعوات، باب مايقول إذا رأى مبتلى.

## အခန်း(၂၁) ကြီးလေးသော ဒုစရိုက်များ

## (٨٣) الحديث الثالث والثمانون

عَـن أَبِـيْ هُرَيرَةَ (رضي اللّٰهعنه) عَنِ النَّبِيِّ ﷺ قَالَ : اجتَنِبُوا السَّبعَ المُوْبِقَاتِ ـ قَالُوْا يَا رَسُولَ اللَّهِ ! وَمَا هُنَّ ؟ قَالَ : الشِّرْكُ بِاللَّهِ ، وَالسِّحْرُ ، وَقَتْلُ النَّفسِ الَّتِي حَرَّمَ اللَّـهُ إِلَّا بِـالْـحَـقِّ ، وَأَكْـلُ الـرِّبَـا ، وَأَكْـلُ مَالِ اليَتِيمِ ، وَالتَّوَلِّي يَوْمَ الزَّحفِ ، وَقَذْفُ المُحْصَنَاتِ المُؤمِنَاتِ الغَافِلَاتِ ﴿رواه البخاري﴾

### အဓိပ္ပါယ်

ဟဇရသ်အဗူဟိုရိုင်ရဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . အသင်တို့သည် ပျက်ဆီးဆုံးရှုံးစေသော အချက်(၇)ချက်ကို ရှောင်ကြဉ်ကြပါ။ ထိုအခါ ဆွဟာဗဟ်ﷺသခင်များက အိုကိုယ်တော်၊ ထိုအချက်များမှာမည်သည့်အရာများဖြစ်ပါသနည်းဟု လျှောက်ထားမေးမြန်းရာ တမန်တော်မြတ်ﷺ က (၁) အလ္လာဟ်အရှင်မြတ်နှင့်တုဖက်နှိုင်းယှဉ်ခြင်း၊(၂)ပယောဂလုပ်ခြင်း၊ (၃)အလ္လာဟ်အရှင်မြတ်ဟရာမ်အဖြစ်သတ်မှတ်ထားသော တစ်ပါးသူ၏အသက်အား မတရားသဖြင့်သတ်ဖြတ်ခြင်း၊ (၄)အတိုးစားခြင်း၊ (၅)မိဘမဲ့ကလေးငယ်၏ဥစ္စာပစ္စည်းအား မတရားသဖြင့်စားသုံးခြင်း၊ (၆)(စစ်ပွဲတွင်)စစ်ရှိန်မြင့်မားနေချိန်၌ထွက်ပြေးခြင်း၊ (၇)အမှုမဲ့အမှတ်မဲ့နေသောအိမ်ထောင်ရှင်မုအ်မင်န်အမျိုးသမီးအား စွပ်စွဲခြင်းပင်ဖြစ်သည်ဟုမိန့်ကြားတော်မူခဲ့သည်။ (ဗိုခါရီကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| أوبق (إفعال) إِيْبَاقًا | ဖျက်ဆီးချေမှုန်းခြင်း |
| سحر (ف) سَحْرًا وسِحْرًا | စုန်းပယောဂလုပ်ခြင်း |
| ربا (ن) رَبْوًا | အတိုးစားခြင်း |
| تولى (تفعل) تولِّيًا | ပြန်လှည့်ခြင်း |

(٨٣) أخرجه البخاري في كتاب الوصايا، باب قول لله" إن الذين يأكلون أموال اليتامى......

| | |
|---|---|
| زحف (ف) زَحْفًا | ချီတက်တိုက်ခိုက်ခြင်း |
| قذف (ض) قَذْفًا | စွပ်စွဲခြင်း |
| أحصن (إفعال) إِحْصَانًا | ထိန်းသိမ်းစောင့်ရှောက်ခြင်း |
| يتيمٌ (ج) يَتَامٰى | မိဘမဲ့ကလေး |

## (٨٤) الحديث الرابع والثمانون

عَـنِ ابْـنِ عَبَّـاسٍ ( رَضِـيَ اللّٰهُعَـنْهُـمَا) قَالَ : لَعَنَ رَسُولُ اللَّهِ ﷺ الْمُتَشَبِّهَاتِ بِالرِّجَالِ مِنَ النِّسَاءِ وَالْمُتَشَبِّهِيْنَ بِالنِّسَاءِ مِنَ الرِّجَالِ. ﴿رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အေဗ်နေ့အဗ်ါးစ် ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺသည် အမျိုးသားများနှင့်ဆင်တူရှိမှုးဖြစ်အောင်နေထိုင်သောအမျိုးသမီးများအားလည်းကောင်း၊ အမျိုးသမီးများနှင့်ဆင်တူရှိမှုးဖြစ်အောင်နေထိုင်သော အမျိုးသားများအားလည်းကောင်း (လအ်နသ်)ကျိန်ဆဲတော်မူခဲ့သည်။ (သေ့ရ်မိဇီကျမ်း)

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| تشبه (تفعل) تشبُّهاً | တူဆင်အောင်ပြုလုပ်ခြင်း |
| لعن (ف) لَعْنًا | ကျိန်ဆဲခြင်း၊လအ်နသ်ပို့ခြင်း |

## (٨٥) الحديث الخامس والثمانون

عَنْ جَابِرٍ (رضي اللّٰهعنه) قَالَ: لَعَنَ رَسُولُ اللَّهِ ﷺ آكِلَ الرِّبَا وَمُؤَكِّلَهُ وَكَاتِبَهُ وَشَاهِدَيهِ وَقَالَ: هُمْ سَوَاءٌ . ﴿رواه مسلم﴾

**အဓိပ္ပါယ်**

ဟဇရသ်ဂျာဗေ့ရ်ﷺသခင်ဆင့်ပြန်ခဲ့သည်။အတိုးပေးသောသူ၊ အတိုးယူသောသူ၊ အတိုးနှင့်ပက်သက်၍(ကူညီ)ရေးသားပေးသောသူနှင့် သက်သေလုပ်ပေးသောသူတို့အား တမန်တော်မြတ်ﷺ သည် ကျိန်ဆဲတော်မူခဲ့သည်။(မွတ်စ်လင်မ်ကျမ်း)

---

(٨٤) أخرجه الترمذي في كتاب الأدب، باب ماجاء في المتشبهات بالرجال من النساء.

(٨٥) أخرجه مسلم في كتاب المساقات ، باب لعن آكل الربا ومؤ كله....

## (٨٦)الحديث السادس والثمانون

عَـنْ أَبِـيْ هُـرَيـرَةَ ( رَضِيَ اللّٰهعَنْهُ) أَنَّ رَسُولَ اللّٰهِ ﷺ قَالَ : أَتَدرُونَ مَا الغِيْبَةُ ، قَالُوا: اللّٰهُ وَرَسُولُهُ أَعلَمُ ، قَالَ: ذِكْرُكَ أَخَاكَ بِمَا يَكْرَهُ ـ قِيْلَ: أَفَرَأَيْتَ إِنْ كَانَ فِيْ أَخِيْ مَا أَقُوْلُ، قَالَ: إِنْ كَانَ فِيهِ مَا تَقُوْلُ فَقَدِ اغتَبْتَهُ وَإِنْ لَمْ يَكُنْ فِيْهِ فَقَد بَهَتَّهُ.

﴿رواه مسلم﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺက (ဆွဟာဗာများ အား) အတင်းပြောခြင်းဆိုသည်မှာ မည်သည့်အရာအား ခေါ်ဆိုသည်ကို အသင်တို့သိရှိပါသလားဟု မေးမြန်းရာ ဆွဟာဗဟ်များက အလ္လာဟ်နှင့် အလ္လာဟ့်ရစူလ် သာလျှင်အသိဆုံးဖြစ်ပါသည်ဟု လျှောက်ထားခဲ့သည်။ထိုအခါ တမန်တော်မြတ်ﷺက မိန့်တော်မူသည်မှာ. . အသင့် နောင်တော်မနှစ်သက်သောအရာကို ပြောဆိုခြင်းသည် အတင်းပြောခြင်းပင်ဖြစ်သည်။သို့ရှိရာ(တစ်ဦးက)လျှောက်ထားသည်မှာ. . . အကယ်၍ ကျွန်တော်ပြောဆိုလိုက်သောအရာသည် ကျွန်တော်၏ နောင်တော်တွင်ရှိနေသောအရာ ဖြစ်ပါက မည်သို့ဖြစ်မည်နည်း။ တမန်တော်မြတ်ﷺဖြေကြားခဲ့သည်မှာ. . အသင် ပြောဆို လိုက်သောအရာသည် (အသင်၏နောင်တော်တွင်) ရှိသောအရာဖြစ်ပါက အသင်သည် အတင်းပြောဆိုခြင်းပင်သည်။အသင်ပြောဆိုသောအရာသည် မရှိသော အရာဖြစ်ပါ စွပ်စွဲ လိုက်ခြင်းပင်ဖြစ်ပေသည်။ (မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| اغتاب (افتعال) اغْتِيَابًا | အတင်းပြောခြင်း |
| بهَّت (تفعيل) تَبْهِيْتًا | စွပ်စွဲလိုက်ခြင်း |

---

(٨٦) أخرجه مسلم في كتاب البر والصلة ، باب تحريم الغيبة.

# (٨٧) الحديث السابع والثمانون

عَن أَبِي ذَرٍّ( رَضِيَ اللّٰهعَنْهُ) أَنَّ النَّبِيِّ ﷺ قَالَ : ثَلَاثَةٌ لَا يُكَلِّمُهُمُ اللَّهُ يَوْمَ القِيَامَةِ : المَنَّانُ الَّذِيْ لَا يُعطِيْ شَيْئًا إِلَّا مَنَّهُ، وَالمُنَفِّقُ سِلعَتَهُ بِالحَلِفِ الفَاجِرِ وَالمُسْبِلُ إِزَارَهُ .﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဇရ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . ကေယာမသ်နေ့တွင် အလ္လာဟ်အရှင်မြတ်သည် (၃)ဦးသောသူအား အလျဉ်းစကားပြောဆိုတော်မူမည်မဟုတ်ပေ။ထို(၃)ဦးတို့မှာ. . (၁) အကျိုးအမြတ်များ မျှော်လင့်ချက်ထား၍ ကျေးဇူးပြုသောသူ၊ (၂) လိမ်လည်ကျိန်ဆို၍ ကုန်ပစ္စည်းရောင်းချသူ နှင့် (၃) မိမိ၏ လုံချည်အား ခြေမျက်စိဖုံး၍ဝတ်သောသူတို့ဖြစ်ပေသည်။ (မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| مَنَّ (ن) مَنًّا | ကျေးဇူးပြုခြင်း |
| نفَّق (تفعيل) تنْفِيْقًا | ရောင်းချခြင်း |
| سَلْعَةٌ (ج) سِلَعٌ | ကုန်ပစ္စည်း |
| أَسْبل (إفعال) إسْبالًا | အောက်သို့ချထားခြင်း |

# (٨٨) الحديث الثامن والثمانون

عَنْ أَبِيْ هُرَيْرَةَ (رضى اللّٰه عنه) عَنِ النَّبِيِّ ﷺ قَالَ : مَا أَسْفَلَ مِنَ الكَعْبَينِ مِنَ الإِزَارِ فَفِيْ النَّارِ. ﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . ခြေမျက်စိအောက်ရောက်နေသော လုံချည်၏ အစိတ်အပိုင်းသည် ဂျဟန္နမ်တွင် ရှိပေမည်။ (ဗိုခါရီကျမ်း)

---

(٨٧) أخرجه مسلم في كتاب الإيمان: باب بيان غلظ تحريم إسبال الإزار.

(٨٨) أخرجه البخاري في كتاب اللباس : باب ما أسفل من الكعبين......

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| أسفل (إفعال) إسفالا | အောက်၌ရှိခြင်း |
| كَعَبٌ (ج) أكْعُبٌ وكِعابٌ وكُعُوْبٌ | ခြေမျက်စိ |

## (٨٩) الحديث التاسع والثمانون

عَـنْ أَبِـيْ هُـرَيْـرَةَ (رضـي الله عنه) أَنَّ رَسُولَ اللَّهِ ﷺ قَالَ : لاَ يَنْظُرُ اللَّهُ يَوْمَ القِيَامَةِ إِلَى مَن جَرَّ إِزَارَهُ بَطَرًا . ﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ်ႜသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . မောက်မာစွာဖြင့် မိမိ၏လုံချည်ကို တရွတ်ဆွဲလျှောက်လှမ်းသူအား အလ္လာဟ်အရှင်မြတ်သည် ကေယာမသ်နေ့တွင် အလျဉ်းကြည့်ရှုတော်မူမည် မဟုတ်ပေ။ (ဗိုခါရီကျမ်း)

**ကျက်မှန်ရန် စကားလုံးများ**

| | |
|---|---|
| جَرَّ (ن) جَرًّا | ဆွဲသွားခြင်း |
| بَطِر (س) بَطَرًا | မောက်မာခြင်း၊ကျေးဇူးကန်းခြင်း |

## (٩٠) الحديث التسعون

عَـنْ أَبَـي بَـكْرَةَ (رضي الله عَنْه ) قَالَ: قَالَ النَّبِيُّ ﷺ: أَكْبَرُ الكَبَائِرِ: الإِشْرَاكُ بِـاللّه ، وَعُـقُـوْقُ الوَالِدَيْنِ ، وَشَهَادَةُ الزُّوْرِ ، وَشَهَادَةُ الزُّوْرِ ثَلاَثًا أَو قَوْلُ الزُّوْرِ ـ فَمَا زَالَ يُكَرِّرُهَا حَتَّى قُلْنَا: لَيتَهُ سَكَتَ.﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဗကရ်ရဟ်ႜသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူသည်မှာ. . ကြီးလေးသော ပြစ်မှုများတွင် သာပို၍ကြီးမားသောပြစ်မှုများမှာ. . .

---

(٨٩) أخرجه البخاري في كتاب اللباس : باب من جر ثوبه من الخيلاء.

(٩٠) أخرجه البخاري في كتاب اتتابة المرتدين : باب إثم من أشرك بالله.........

အလ္လာဟ်အရှင်မြတ်အား တုဖက်နိုင်းယှဉ်ခြင်း၊ မိဘနှစ်ပါး၏အမိန့်ဖီဆန်ခြင်း၊ မုသားသက်သေထွက်ဆိုခြင်း၊ မုသားသက်သေထွက်ဆိုခြင်း (သို့) လိမ်ညာပြောဆိုခြင်းပင်ဖြစ်ပေသည်။ ကိုယ်တော်သခင်ﷺသည် (ဤနောက်ဆုံးစကားအား) ကြိမ်ဖန်များစွာ ပြောဆိုနေပေသည်။ သို့ရှိရာကိုယ်တော် ရပ်နားလိုက်လျှင် ကောင်းလေစွဟု ကျွန်တော်တို့ (အချင်းချင်း) ပြောဆိုခဲ့ကြလေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| عَقَّ (ن) عَقًّا و عُقُوْقًا | အမိန့်ဖီဆန်ခြင်း |
| زُوْرٌ | မုသားပြောဆိုခြင်း၊လိမ်ညာခြင်း |

## (٩١) الحديث الحادي والتسعون

عَـنْ أَبِـيْ هُـرَيـرَةَ( رَضِـيَ اللّٰهُعَـنْهُ) قَالَ : قَالَ رَسُولُ اللَّهِ ﷺ : قَالَ اللَّهُ تَبَارَكَ وَتَـعَـالَـى، أَنَا أَغْنَى الشُّرَكَاءِ عَنِ الشِّرْكِ، مَنْ عَمِلَ عَمَلاً أَشْرَكَ فِيهِ مَعِي غَيرِيْ ، تَرَكْتُهُ وَشِرْكَهُ .﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ်ﷺသခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺကမိန့်တော်မူခဲ့သည်။အလ္လာဟ်အရှင်မြတ်ကမိန့်တော်မူသည်မှာ. . ငါအရှင်သည် တုဖက်နိုင်းယှဉ်သူများ၏ တုဖက်နိုင်းယှဉ်မှုမှ ကင်းစင်သန့်ရှင်းတော်မူ၏။ မည်မသူမဆို အလုပ်တစ်ခုခုတွင် ငါအရှင်နှင့်အခြားသူအား တုဖက်နိုင်းယှဉ်ခဲ့ပါက ငါအရှင်သည် ထိုသူနှင့်ထိုသူ၏လုပ်ရပ်ကို စွန့်ပစ်တော်မူလေသည်။ (မွတ်စ်လင်မ်ကျမ်း)

---

(٩١) أخرجه مسلم في كتاب الزهد والرقاق، باب من أشرك في عمله غير اللّٰه.

# (٩٢) الحديث الثاني والتسعون

عَنْ أَبِي هُرَيرَةَ( رَضِيَ اللّٰهعَنْهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ : مَنْ كَانَ يُؤمِنُ بِاللَّهِ وَاليَوْمِ الآخِرِ فَلاَ يُؤذِ جَارَهُ ، وَمَن كَانَ يُؤمِنُ بِاللَّهِ وَاليَومِ الآخِرِ فَلْيُكْرِمْ ضَيفَهُ، وَمَنْ كَانَ يُؤمِنُ بِاللَّهِ وَاليَومِ الآخِرِ فَلْيَقُلْ خَيْرًا أَوْ لِيَصْمُتْ .﴿ متفق عليه ﴾

## အဓိပ္ပါယ်

ဟဇရသ်အဗူဟိုရိုင်ရဟ် ﵁ သခင်ကဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် ကေယာမသ်နေ့အား ယုံကြည်သူဖြစ်ပါက မိမိ၏အိမ်နီးနားခြင်းအား ဒုက္ခမပေးလေနှင့်။မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့် ကေယာမသ်နေ့အား ယုံကြည်သူဖြစ်ပါက မိမိ၏ဧည့်သည်အား ဂုဏ်ပေးဆက်ဆံပါ။ မည်သူမဆို အလ္လာဟ်အရှင်မြတ်နှင့်ကေယာမသ်နေ့အားယုံကြည်သူဖြစ်ပါက ကောင်းမွန်သောစကားကိုသာဆိုပါ (သို့) နှုတ်ဆိတ်နေပါ။ (ဗိုခါရီကျမ်းနှင့် မွတ်စ်လင်မ်ကျမ်း)

## ကျက်မှန်ရန် ခက်ဆစ်များ

| | |
|---|---|
| ဒုက္ခပေးခြင်း | آذى (إفعال) إِيْذاءً |
| ဧည့်သည် | ضَيْفٌ ( ج ) ضُيُوْفٌ |
| နှုတ်ဆိတ်နေခြင်း | صمت (ن) صَمْتًا |

---

(٩١) أخرجه البخاري في كتاب الأدب، باب من كان يؤمن بالله واليوم الآخرة....،
وأخرجه مسلم في كتاب الإيمان، باب إكرام الجار والضيف.

## အခန်း(၂၁) သည်းခံခြင်း၏ ကောင်းခြင်းနှင့် ဆုလဒ်

## (٩٣) الحديث الثالث والتسعون

عَنْ صُهَيْبٍ (رَضِيَ اللّٰهُعَنْهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ عَجَبًا لأَمْرِ الْمُؤمِنِ، إِنَّ أَمـرَهُ كُلَّهُ خَيْرٌ، وَلَيْسَ ذَاكَ لأَحَدٍ إِلَّا لِلمُؤمِنِ، إِنْ أَصَابَتْهُ سَرَّاءُ شَكَرَ، فَكَانَ خَيْرًا لَهُ، وَإِنْ أَصَابَتْهُ ضَرَّاءُ صَبَرَ، فَكَانَ خَيْرًا لَهُ. ﴿رواه مسلم﴾

### အဓိပ္ပါယ်

ဟဇရသ်ဆိုဟိုင်းဗ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . မိုအ့်မင်န်၏အခြေအနေသည် အလွန်အံ့သြဖွယ်ရာပင်ဖြစ်၍ ကိစ္စရပ်တိုင်းသည် အကောင်းချည်းသာ ဖြစ်ပေသည်။ထိုအခြေအနေအား မိုအ့်မင်န်မှလွဲ၍ မည်သူမျှမရရှိနိုင်ပါ။(အကြောင်းမှာ)မိုအ့်မင်န်သည် ပျော်ရွှင်ဝမ်းမြောက်သောအခါ အလ္လာဟ်အရှင်မြတ်အား ကျေးဇူးတင်လိုက်ပေသည်။ထိုကဲ့သို ကျေးဇူးတင်လိုက်ခြင်းသည် ၎င်းအတွက်ကောင်းခြင်းတရားပင်ဖြစ်ပေသည်။ထိုအတူ ပူဆွေးသောက ဒုက္ခရောက်သောအခါတွင်လည်း(ဆွဗရ်) သည်းခံလိုက်ပေသည်။ ထိုကဲ့သို့ သည်းခံလိုက်ခြင်းသည် ၎င်းအတွက်ကောင်းခြင်းတရားပင်ဖြစ်ပေသည်။ (မွတ်စ်လင်မ်ကျမ်း)

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| أصاب (إفعال) إصابةً | ထိတွေ့ခြင်း၊ရရှိခြင်း |
| سَرَّاءُ | ပျော်ရွှင်ဝမ်းမြောက်ဖွယ်ရာ |
| ضَرّاءُ | ဆိုးကျိုး၊ ပူဆွေးသောဖြစ်သောအရာ |

---

(٩٦)أخرجه مسلم في كتاب الزهد والرقاق، باب المؤمن أمره كله خير.

## (٩٤) الحديث الرابع والتسعون

عَـنْ أَبِـيْ هُـرَيـرَـةَ ( رضـي اللّٰه عـنـه) أَنَّ رَسُولَ اللَّهِ ﷺ قَالَ: لَيْسَ الشَّدِيدُ بِالصُّرْعَةِ ، إِنَّمَا الشَّدِيْدُ الَّذِيْ يَمْلِكُ نَفْسَهُ عِنْدَ الغَضَبِ .﴿رواه البخاري﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ် ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺမိန့်တော်မူသည်မှာ. . နပန်းသတ်နိုင်ခြင်းသည် အင်အားရှိခြင်းမဟုတ်။ဒေါသထွက်နေချိန်၌ မိမိစိတ်ကို ထိန်းချုပ်နိုင်သူသာလျှင် အင်အားရှိသူဖြစ်ပေသည်။ (ဗိုခါရီကျမ်း)

**ကျက်မှန်ရန် စကားလုံးများ**

| | |
|---|---|
| صرع (ف) صَرْعًا ومَصْرعًا | နပန်းသတ်ခြင်း၊ မြေကြီးပေါ်ပစ်ချခြင်း |

### အခန်း (၂၂) အမှားဝန်ချတောင်းပန်ခြင်း

## (٩٥) الحديث الخامس والتسعون

عَـن أَبِـي هُـرَيـرَـةَ ( رَضِـيَ اللّٰهعَـنْهُ) عَن رَسُولِ اللَّهِ ﷺ أَنَّهُ قَالَ : قَالَ اللَّهُ عَزَّ وَجَـلَّ: أَنَـا عِـنْـدَ ظَنِّ عَبدِيْ بِيْ وَأَنَا مَعَهُ حَيْثُ يَذْكُرُنِيْ، وَاللَّهِ ! لِلَّهُ أَفْرَحُ بِتَوْبَةِ عَبْدِهِ مِـنْ أَحَـدِكُـمْ يَجِدُ ضَالَّتَهُ بِالفَلاَةِ، وَمَنْ تَقَرَّبَ إِلَيَّ شِبْرًا تَقَرَّبتُ إِلَيهِ ذِرَاعًا وَمَن تَقَرَّبَ إِلَيَّ ذِرَاعًا تَقَرَّبتُ إِلَيهِ بَاعًا وَإِذَا أَقْبَلَ إِلَيَّ يَمشِيْ أَقْبَلتُ إِلَيهِ أُهَرْوِلُ.﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ် ﷺသခင် ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺမိန့်တော်မူသည်ခဲ့သည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်မှာ. . ငါအရှင်မြတ်သည် ငါ၏ကျေးကျွန်ယုံကြည်သည့်အတိုင်း ရှိတော်မူသည်။ ထိုသူသည် ငါအရှင့်အား သတိရ

(٩٤) أخرجه البخاري في كتاب الأدب : باب الحذر من الغضب.

(٩٥) أخرجه مسلم فى كتاب التوبة ، باب فى الحض على التوبة والفرح بها.

တသသောအချိန်၌ ငါအရှင်သည် ထိုသူနှင့်အတူရှိတော်မူသည်။ အလ္လာဟ်အရှင်မြတ်၏ ကစမ်၊ အသင်တို့တစ်ဦးဦးသည် မိမိပျောက်ဆုံးသွားသောအရာအား ကွင်းပြင်၌ ပြန်လည်တွေ့မြင်ရချိန် ပျော်ရွှင်ခြင်းထက် အလ္လာဟ်အရှင်မြတ်သည် မိမိကျေးကျွန်တစ်ဦးဦး၏ သောဝ်ဗါဟ်လုပ်ခြင်းကြောင့် သာပို၍ပျော်ရွှင်တော်မူလေသည်။ (အလ္လာဟ်အရှင်မြတ်က ဆက်လက်၍မိန့်ကြားသည်မှာ)မည်သူမဆိုငါအရှင့်ထံတော်ပါးသို့တစ်ထွာလှမ်းခဲ့ပါက ငါအရှင်သည် ထိုသူထံသို့ တစ်တောင်လှမ်းတော်မူသည်။ ထိုသူသည် ငါအရှင့်ထံတော်ပါးသို့ တစ်တောင်လှမ်းခဲ့လျှင် ငါအရှင်သည် ထိုသူထံသို့ တစ်လံလှမ်းတော်မူသည်။ ထိုသူသည် ငါအရှင့်ထံတော်ပါးသို့ လှမ်း၍လာပါက ငါအရှင်သည် ထိုသူထံသို့ပြေး သွားတော်မူပေသည်။ (မွတ်စ်လင်မ်ကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| ضالّةٌ (ج) ضالّاتٌ ضوَالُّ | ပျောက်ဆုံးသွားသောအရာ |
| فلاة (ج) فَلَوَاتٌ وأفْلاءٌ | ကွင်းပြင် |
| شِبْرٌ | တစ်ထွာ |
| باعٌ | တစ်လံ |
| هَرْول (فَعْلَلَةً) هرولةً | ပြေးသွားခြင်း |

## (٩٦) الحديث السادس والتسعون

عَن أَبِي هُرَيرَةَ (رَضِيَ اللّٰهعَنْهُ) أَنَّ النَّبِيَّ ﷺ قَالَ: لَمَّا خلَقَ اللَّهُ الخَلْقَ كَتَبَ فِيْ كِتَابِهِ، فَهُوَ عِنْدَهُ فَوْقَ العَرْشِ، إِنَّ رَحْمَتِيْ تَغْلِبُ غَضَبِيْ ﴿رواه مسلم﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့် တော်မူသည်မှာ. . အလ္လာဟ်အရှင်မြတ်သည် ဖန်ဆင်းခံများကို ဖန်ဆင်းပြီးသောအခါ(အရရှ်) ပုလ္လင် တော်ရှိမိမိထံတော်ပါးတွင်ရှိသောကျမ်းတော်၌ (ဤသို့) ရေးသားတော်မူခဲ့လေသည်။ "ငါအရှင်၏ ကရုဏာတော်သည်ငါအရှင်၏ ဒေါသအား (အမြဲ)လွှမ်းမိုး တော်မူပေသည် "။ (မွစ်လင်မ်ကျမ်း)

---

(٩٦) أخرجه مسلم في كتاب التوبة: باب في سعة رحمة الله....

## (٩٧) الحديث السابع و التسعون

عَنِ ابْنِ عُمَرَ ( رَضِيَ اللّٰهعَنْهُما) عَنِ النَّبِيِّ ﷺ قَالَ : إِنَّ اللّٰهَ يَقْبَلُ تَوْبَةَ العَبْدِ مَا لَمْ يُغَرْغِرْ ﴿ رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ်အေ့ဗ်နေ့အိုမရ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ. . မုချကေန် အလ္လာဟ်အရှင်မြတ်သည် ကျေးကျွန်၏ အမှားဝန်ချတောင်းပန်မှုအား အသက်ငင်သည့်အချိန်ထိ လက်ခံတော်မူပေသည်။ (သေ့ရ်မိဇီကျမ်း)

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| غَرْغَرَ (فعللة) غَرْغَرَةً | အသက်ငင်ခြင်း |

## (٩٨) الحديث الثامن والتسعون

عَـنْ جَـابِـرِ بنِ عَبدِ اللَّهِ ( رَضِيَ اللّٰهعَنهُمَا) قَالَ: كَانَ رَسُولُ اللَّهِ ﷺ يُعَلِّمُنَا الاِسْتِـخَـارَـةَ فِـيْ الْأُمُوْرِ كَمَا يُعَلِّمُنَا السُّوْرَةَ مِنَ القُرآنِ يَقُولُ : إِذَا هَمَّ أَحَدُكُمْ بِالْأَمْرِ فَـلْيَـرْكَـعْ رَكعَتَيْنِ مِنْ غَيرِ الفَرِيْضَةِ ، ثُمَّ لِيَقُلْ، اللَّهُمَّ إِنِّي أَسْتَخِيْرُكَ بِعِلْمِكَ وَأَسْتَقْدِرُكَ بِـقُـدْرَتِكَ وَأَسْـأَلُكَ مِـنْ فَضْلِكَ العَظِيْمِ ، فَإِنَّكَ تَقْدِرُ وَلَا أَقْدِرُ وَتَعْلَمُ وَلَا أَعْلَمُ وَأَنْتَ عَلَّامُ الـغُيُـوْبِ ، الـلَّهُمَّ إِنْ كُنْتَ تَعْلَمُ أَنَّ هَذَا الأَمْرَ خَيْرٌ لِيْ فِيْ دِينِيْ وَمَعَاشِيْ وَعَاقِبَةِ أَمرِيْ أَوْ قَالَ عَاجِلِ أَمْرِيْ وَآجِلِهِ، فَاقْدُرْهُ لِيْ وَيَسِّرْهُ لِيْ، ثُمَّ بَارِكْ لِيْ فِيهِ ، وَإِنْ كُنْتَ تَـعْـلَـمُ أَنَّ هَـذَا الأَمْـرَ شَرٌّ لِيْ فِيْ دِيْنِي وَمَعَاشِيْ وَعَاقِبَةِ أَمرِيْ أَو قَالَ فِيْ عَاجِلِ أَمْرِيْ وَآجِـلِـهِ ، فَـاصْرِفْهُ عَنِّيْ وَاصْرِفنِيْ عَنْهُ ، وَاقْـدُرْ لِـيْ الخَيْرَ حَيْثُ كَانَ ثُمَّ أَرْضِنِيْ، قَالَ وَيُسَمِّيْ حَاجَتَهُ . ﴿ رواه البخاري﴾

---

(٩٧) أخرجه الترمذي في كتاب الدعوات : باب قبول توبة العبد مالم يغرغر.

(٩٨) أخرجه البخاري: كتاب الدعوات باب الدعاء عند الاستخارة.

**အဓိပ္ပါယ်**

ဟဇရသ်ဂျာဗေ့ရ်ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ်ﷺသည် ကျွန်တော်တို့အား ကျမ်းမြတ်ကုရ်အာန်သင်ပေးသကဲ့သို့ ကိစ္စရပ်တိုင်းတွင် အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ ကောင်းသောအရာကို ရွေးချယ်တောင်းခံရန်အတွက်လည်း သင်ပြပေးတော်မူခဲ့သည်။ တမန်တော်မြတ်ﷺအမိန့်ရှိသည်မှာ. . . အသင်တို့ တစ်ဦးဦးသည် အရေးကိစ္စတစ်ခု ကြုံဆုံလာပါ နဖိလ်နမာဇ် (၂) ရကအသ် ဝတ်ပြုပါ။ ထို့နောက် (ဤဒိုအာကို) ဖတ်ပါ။“ကျွန်တော်မျိုးသည် အရှင်မြတ်၏ အသိတော်အား အကြောင်းခံ၍ အရှင်မြတ်ထံတော်ပါးတွင် ကောင်းခြင်းတရားကိုသာ တောင်းခံတော်မူပါ၏။ ကျွန်တော်မျိုးသည် အရှင်မြတ်၏ စွမ်းအားတော်ကို အကြောင်းခံ၍ အရှင်မြတ်၏ လုပ်ဆောင်နိုင်ရည်ကို တောင်းခံတော်မူပါ။ကျွန်တော်မျိုးသည် အရှင်မြတ်၏ကြီးမားလှသော ကျေးဇူးတရားများကိုလည်း တောင်းခံတော်မူပါ၏။ အရှင်မြတ်သည် စွမ်းအားရှင်ဖြစ်တော်မူ၍ကျွန်တော်မျိုးသည်မစွမ်းသူ ဖြစ်ပါ၏။ အရှင်မြတ်သည် အကြွင်းမဲ့သိသော အရှင်ဖြစ်တော်မူ၍ ကျွန်တော်မျိုးသည် မသိနားမလည်သူသာ ဖြစ်ပါ၏။ အရှင်မြတ်သည်သာ အကွယ်၌ရှိသောအရာများကို အကြွင်းမဲ့သိတော်မူသော အရှင် ဖြစ်ပါ၏။ အိုအရှင်၊ ဤကိစ္စရပ်သည် ကျွန်တော်မျိုး၏ သာသနာ၊ စားဝတ်နေရေးနှင့် အာခိရသ်အတွက် ကောင်းကျိုးများ ရှိနေကြောင်းကို အရှင်မြတ်သိတော်မူလျှင် ဤကိစ္စရပ်အား အရှင်မြတ်လွယ်ကူစေတော်မူပါ။ ထိုကိစ္စရပ်တွင် ဗရကသ်မင်္ဂလာများ ချီးမြင့်ပေးသနားတော်မူပါ။ အကယ်၍ ဤကိစ္စရပ်သည် ကျွန်တော်မျိုး၏ သာသနာ၊ စားဝတ်နေရေးနှင့် အာခိရသ်အတွက် ဆိုးကျိုးများရှိနေကြောင်းကို အရှင်မြတ်သိတော်မူလျှင် ဤကိစ္စရပ်အား ကျွန်တော်မျိုးထံမှ ဖယ်ရှားပေးတော်မူပါ။ ကျွန်တော်မျိုးကိုလည်း ဤကိစ္စရပ်မှ ဝေးကွာစေတော်မူပါ။ အရှင်မြတ်သည် ကျွန်တော်မျိုးအတွက် အကောင်းဆုံးသောအရာကို သတ်မှတ်ပေးတော်မူ၍ ကျွန်တော်မျိုးအား ကျေနပ်နှစ်သက်စေတော်မူပါ။ ထိုနောက် တမန်တော်မြတ်ﷺ မိန့်တော်မူသည်မှာ. . . မိမိ၏လိုအပ်ချက်အား အရှင်မြတ်ထံတော်ပါးတွင် ဖော်ပြတောင်းခံပါ။ (ဗုခါရီကျမ်း)

## အခန်း (၂၃) အလ္လာဟ်အရှင်မြတ်၏ နာမတော်များ

### (٩٩) الحديث التاسع والتسعون

عَنْ أَبِيْ هُرَيْرَةَ( رَضِيَ اللّٰهُعَنْهُ)عَنْ النَبِيِّ ﷺ قَالَ : لِلّٰهِ تِسْعَةٌ وَتِسْعُونَ اسْمًا مَنْ حفِظَهَا دَخَلَ الجَنَّةَ ، إنَّ اللّٰهَ وَترٌ يُحِبُّ الوَترَ . ﴿ رواه مسلم ﴾

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ် ﵁ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူသည်မှာ. . အလ္လာဟ်အရှင်မြတ်တွင် အမည်နာမတော်ပေါင်း (၉၉)ခု ရှိပေသည်။ မည်သူမဆို အလ္လာဟ်အရှင်မြတ်၏နာမတော်များကို ကျက်မှတ်မည်ဆိုပါက ဂျန္နသ်သုခံဘုံသို့ ဝင်ရောက်ရပေမည်။မုချကေန် အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်း တည်ရှိသောအရှင်ဖြစ်တော်မူ၍ တစ်ပါးတည်း တည်ရှိခြင်းကိုသာ နှစ်သက်တော်မူပေသည်။

(ဗိုခါရီကျမ်း)

### (١٠٠) الحديث المائة

عَـن أَبِـي هُرَيرَةَ( رَضِيَ اللّٰهعَنهُ) قَالَ: قَالَ رَسُولُ اللَّهِ ﷺ : إِنَّ لِلَّهِ تَعَالَى تِسـعَةً وَتِسعِينَ اسمًا مِائةً غَيرَ وَاحِدَةٍ ، مَن أَحصَاهَا دَخَلَ الجَنَّةَ، هُوَ اللَّهُ الَّذِيْ لَا إِلَـهَ إِلَّا هُـوَ الـرَّحـمَنُ الرَّحِيمُ المَلِكُ ، القُدُّوْسُ، السَّلَامُ، المُؤمِنُ، المُهَيْمِنُ، الـعَـزِيْـزُ، الـجَبَّارُ، المُتَكَبِّرُ ،الخَالِقُ ،البَارِئُ، المُصَوِّرُ ،الغَفَّارُ ،القَهَّارُ ،الوَهَّابُ، الـرَّزَّاقُ، الـفَتَّـاحُ ،الـعَـلِيـمُ ،القَابِضُ ،البَاسِطُ، الخَافِضُ، الرَّافِعُ ،المُعِزُّ ،المُذِلُّ، السَّـمِيـعُ، البَصِيرُ، الحَكَمُ، العَدلُ ،اللَّطِيفُ، الخَبِيرُ ،الحَلِيمُ، العَظِيمُ ، الغَفُورُ ،

---

(٩٩) أخرجه مسلم في كتاب الذكر والدعاء والتوبة : باب أسماء الله ..........

(١٠٠) أخرجه الترمذي في كتاب الدعوات،باب إن لله تسعة وتسعين اسما.

الشَّكُورُ، العَلِيُّ، الكَبِيرُ، الحَفِيظُ،المُقِيتُ،الحَسِيبُ،الجَلِيلُ،الكَرِيمُ ،الرَّقِيبُ، المُجِيبُ،الوَاسِعُ، الحَكِيمُ،الوَدُودُ،المَجِيدُ ،البَاعِثُ،الشَّهِيدُ ،الحَقُّ، الوَكِيلُ، القَوِيُّ ،المَتِينُ، الوَلِيُّ، الحَمِيدُ ،المُحصِى ، المُبدِئُ، المُعِيدُ ،المُحيِي، المُمِيتُ، الحَيُّ ،القَيُّومُ، الوَاجِدُ، المَاجِدُ ،الوَاحِدُ ،الصَّمَدُ ،القَادِر، المُقتَدِرُ، المُقَدِّمُ، المُؤَخِّرُ ،الأَوَّلُ، الآخِرُ، الظَّاهِرُ، البَاطِنُ، الوَالِيْ ،المُتَعَالِيْ، البَرُّ ، التَّوَّابُ ، المُنْتَقِم، العَفُوُّ، الرؤُوْفُ، مَالِكُ المُلكِ ، ذُو الجَلاَلِ وَالإِكرَامِ ، المُقسِطُ، الجَامِعُ، الغَنِيُّ،المُغنِيْ، المَانِعُ ،الضَّارُّ، النَّافِعُ، النُّورُ، الهَادِى، البَدِيعُ ،البَاقِيْ ، الوَارِثُ، الرَّشِيد ، الصَّبُور. ﴿ رواه الترمذي﴾

**အဓိပ္ပါယ်**

ဟဇရသ် အဗူဟိုရိုင်ရဟ် ﷺသခင်ဆင့်ပြန်ခဲ့သည်။တမန်တော်မြတ် ﷺကမိန့်တော်မူသည်မှာ. . အလ္လာဟ်အရှင်မြတ်တွင် အမည်နာမတော်ပေါင်း (၉၉)ခုရှိပေသည်။ မည်သူမဆို ထိုနာမတော်များကို ရေတွက် (ကျက်မှတ်မည်) ဆိုပါက ဂျန္နသ်သုခဘုံသို့ ဝင်ရောက်ရပေမည်။"ထိုအရှင်သည် အလ္လာဟ်အရှင်မြတ် ဖြစ်ပေသည်။ ထိုအရှင်မှလွဲ၍ အခြားမည်သူမျှ ခဝပ်ကိုးကွယ်ခံထိုက်သူဟူ၍အလျဉ်းမရှိပေ။ထိုအရှင်သည် အလွန်သနားကြင်နာတော်မူသောအရှင် ၊ ကရုဏာအရှိဆုံးအရှင်ဖြစ်တော်မူပေသည်။

| | |
|---|---|
| စိုးပိုင်တော်မူသောအရှင် | الملك |
| အသန့်စင်ဆုံး ဖြစ်တော်မူသောအရှင် | القدوس |
| မင်္ဂလာအပေါင်းနှင့်ပြည့်စုံတော်မူသောအရှင် | السلام |
| အေးချမ်းသာယာခြင်းကိုပေးတော်မူသောအရှင် | المؤمن |

| | |
|---|---|
| المهيمن | အလုံးစုံသောသတ္တဝါတို့ကို ထိန်းသိမ်းစောင့်ရှောက်တော်မူသောအရှင် |
| العزيز | တန်ခိုးတော်နှင့်ပြည့်စုံတော်မူသောအရှင် |
| الجبار | တန်ခိုးအာဏာပြင်းပြတော်မူသောအရှင် |
| المتكبر | ဂုဏ်မာနနှင့် ထိုက်တန်တော်မူသောအရှင် |
| الخالق | ဖန်ဆင်းတော်မူသောအရှင် |
| البارئ | မရှိရာမှ ရှိရာသို့ ဖန်ဆင်းတော်မူသောအရှင် |
| المصور | ရုပ်ဆင်းသဏ္ဌာန်ကျနစွာ ဖန်ဆင်းတော်မူသောအရှင် |
| الغفار | အပြစ်များကို လွှတ်ငြိမ်းချမ်းသာပေးတော်မူသောအရှင် |
| القهار | တန်ခိုးတော်ဖြင့် လွှမ်းမိုးနှိမ်နင်းတော်မူသောအရှင် |
| الوهاب | အလွန်တရာ ရက်ရောတော် မူသောအရှင် |
| الرزاق | စားနပ်ရိက္ခာပေးသနားတော်မူသောအရှင် |
| الفتاح | စီရင်ဆုံးဖြတ်တော်မူသောအရှင် |
| العليم | အကြွင်းမဲ့သိရှိတော်မူသောအရှင် |
| القابض | ရိက္ခာနှင့်စိတ်အလှကို ကြပ်တည်းအောင်ပြုနိုင်သောအရှင် |
| الباسط | ရိက္ခာနှင့်စိတ်နှလုံးကို ကျယ်ဝန်းအောင် ပြုတော်မူသောအရှင် |
| الخافض | မိစ္ဆာဒိဋ္ဌိများကို နှိမ့်ချတော်မူသောအရှင် |
| الرافع | ချီးမြင့်မြှောက်စားတော်မူသောအရှင် |
| المعز | ချစ်ခင်မြတ်နိုးတော်မူသောအရှင် |
| المذل | ဂုဏ်သရေပျက်ခြင်းကို ဖြစ်စေတော်မူသောအရှင် |
| السميع | အကာအကွယ်မရှိ ကြားသိတော်မူသောအရှင် |
| البصير | အကာမရှိ အကြွင်းမရှိ သိမြင်တော် မူသောအရှင် |

| | |
|---|---|
| الحكيم | အမိန့်အာဏာတော်ဖြင့် စီရင်ဆုံးဖြတ်တော်မူသောအရှင် |
| العدل | ဖြောင့်မတ် တရားမျှတတော်မူသောအရှင် |
| اللطيف | နူးညံ့သိမ်မွေ့တော်မူသောအရှင် |
| الخبير | အရာအားလုံးကို အကြွင်းမရှိ သိကြားတော်မူသောအရှင် |
| الحيلم | ခန္တီသိက္ခာဂုဏ်တော်နှင့် ပြည်စုံတော်မူသောအရှင် |
| العظيم | မြင့်မြတ်ခြင်းအပေါင်းနှင့် ပြည့်စုံတော်မူသောအရှင် |
| الغفور | အပြစ်များမှ လွတ်ကင်းချမ်းသာခွင့်ကို ပေးတော်မူသောအရှင် |
| الشكور | ကောင်းသော အစားပေးတော်မူသော အရှင် |
| العلي | အမြင့်မြတ်ဆုံးဖြစ်တော်မူသောအရှင် |
| الكبير | ကြီးကျယ်ထွဋ်မြတ်တော်မူသောအရှင် |
| الحفيظ | စောင့်ရှောက်အုပ်ထိန်းတော်မူသောအရှင် |
| المقيت | စွမ်းအား ပေးသနားတော်မူသောအရှင် |
| الحسيب | စစ်ဆေးမေးမြန်းတော်မူမည့်အရှင် |
| الجليل | ဘုန်းတန်ခိုးကြီးမြတ်တော်မူသောအရှင် |
| الكريم | အလွန်ပေးကမ်းချီးမြင့်တော်မူသောအရှင် |
| الرقيب | စောင့်ရှောက်ထိန်းသိမ်းတော်မူသောအရှင် |
| المجيب | တောင်းခုတော်များကို နှစ်သက်လက်ခံတော်မူသောအရှင် |
| الواسع | အတိုင်းအဆ မရှိ ကျယ်ဝန်းသောဉာဏ်တော် အရှင် |
| الحكيم | သဗ္ဗညုတဉာဏ်တော်ရှင် |
| الودود | ချစ်ခင်မြတ်နိုးတော်မူသောအရှင် |
| المجيد | ကြီးကျယ်မြင့်မြတ်တော်မူသောအရှင် |
| الباعث | ပြန်လည် အသက်ရှင်စေ၍ စုရုံးစေတော်မူသောအရှင် |

| | |
|---|---|
| မျက်ကွယ်မျက်မှက်အလစ်အလပ်မရှိသိမြင်တော်မူသောအရှင် | الشهيد |
| မှန်ကန်တရားမျှတတော်မူသောအရှင် | الحق |
| အားကိုးခြင်းခံထိုက်တော်မူသောအရှင် | الوكيل |
| တန်ခိုးအင်အားကြီးမားသောအရှင် | القوي |
| တည်တံ့ခိုင်မြဲအောင်ပြုလုပ်ပေးတော်မူသောအရှင် | المتين |
| မိတ္တ်မင်န်များကို ချစ်ခင်တော်မူသောအရှင် | الولي |
| ချီးမွမ်းထောပနာအပေါင်းတို့ကို ခံထိုက်တော်မူသောအရှင် | الحميد |
| အရာခပ်သိမ်းတို့၏အသိပညာကို လွှမ်းမိုးတော်မူသောအရှင် | المحصي |
| အစပြုဖန်ဆင်းတော်မူသောအရှင် | المبدئ |
| ဒုတိယမှ ဖန်ဆင်းတော်မူသောအရှင် | المعيد |
| အသက်ရှင်သန်မှုကိုပေးသနာ်တော်မူသောအရှင် | المحيي |
| သေဆုံးအောင် ပြုလုပ်နိုင်တော်မူသောအရှင် | المميت |
| အိုခြင်း၊နာခြင်း၊သေခြင်းမရှိသော ထဝရတည်ရှိတော်မူသည့်အရှင် | الحي |
| နိစ္စထာဝရ အမြဲရှင်နေတော်မူသောအရှင် | القيّوم |
| အရာခပ်သိမ်း ပြည့်စုံလုံလောက်စွာ ရှိတော်မူသောအရှင် | الواجد |
| ကြီးမြင့်ထွဋ်မြင့်တော်မူသောအရှင် | الماجد |
| တစ်ပါးတည်းရှိတော်မူသောအရှင် | الواحد |
| အတုလ ပြိုင်ဘက်မရှိသောအရှင် | الصمد |
| အရာခပ်သိမ်းတို့ကို စွမ်းနိုင်တော်မူသောအရှင် | القادر |
| အနန္တတန်ခိုးတော်နှင့်ပြည့်စုံတော်မူသောအရှင် | المقتدر |
| ဦးစွာ ပထမ ရှိနေသော၊ စီမံတော်မူသောအရှင် | المقدم |
| နောက်ဆုံး ကျန်ရှိတော်မူမည့်အရှင် | المؤخر |

| | |
|---|---|
| ပထမဦးစွာ တည်ရှိတော်မူသောအရှင် | الأول |
| နောက်ဆုံးတည်ရှိတော်မူမည့်အရှင် | الآخر |
| ထင်ရှားစွာ တည်ရှိတော်မူသောအရှင် | الظاهر |
| ဖုံးကွယ်၍ ရှိနေတော်မူသောအရှင် | الباطن |
| စိုးပိုင်တော်မူသောအရှင် | الوالي |
| အလုံးစုံတို့ထက်ကြီးကဲတော်မူသောအရှင် | المتعالي |
| အကျိုးကျေးဇူးကို ဆောင်တတ်တော်မူသောအရှင် | البر |
| ဝန်ချတောင်းပန်ခြင်းကို လက်ခံတော်မူသောအရှင် | التواب |
| အပြစ်ရှိတို့အား တုံ့ပြန်လက်စားချေတော်မူသောအရှင် | المنتقم |
| အပြစ်များကို လွတ်ငြိမ်းချမ်းသာခွင့်ပေးတော်မူသောအရှင် | العفوّ |
| အလွန်ကြင်နာ သနားတော်မူသောအရှင် | الرؤوف |
| တလောကလုံးကို ပိုင်စိုးတော်မူသောအရှင် | مالك الملك |
| ဘုန်းအာဏာနှင့်ချီးမြင့်ခြင်းနှစ်ရပ်လုံးကို ပိုင်ဆိုင်တော်မူသောအရှင် | ذوالجلال والإكرام |
| တရားမျှတ မှန်ကန်စွာစီရင်တော်မူသောအရှင် | المقسط |
| (ရှင်ပြန်ထရမည့်)နေ့တွင် လူခပ်သိမ်းတို့အား စုံရုံးတော်မူမည့်အရှင် | الجامع |
| အရာခပ်သိမ်းကြွယ်ဝချမ်းသာတော်မူသောအရှင် | الغني |
| လိုလားတောင့်တခြင်း ကောင်းတော်မူသောအရှင် | المغني |
| မကောင်းမှုကို တားမြစ်တော်မူသောအရှင် | المانع |
| အကျိုးပျက်ပြားအောင် ပြုနိုင်တော်မူသောအရှင် | الضارّ |
| အကျိုးကျေးဇူးကို ဖြစ်ထွန်းစေတော်မူသောအရှင် | النافع |
| ရောင်ခြည်တော်အရှင် | النور |

| | |
|---|---|
| الهادي | ဖြောင့်မတ်သောလမ်းကို ညွှန်ပြတော်မူသောအရှင် |
| البديع | တုနှိုင်းမဲ့အရှင် |
| الباقي | အမြဲထာဝရတည်ရှိတော်မူသောအရှင် |
| الوارث | ကျန်ရစ်တော်မူမည့်အရှင် |
| الرشيد | ဖြောင့်မတ်မှန်ကန်သော တရားလမ်းစဉ်ကို ညွှန်ပြတော်မူသောအရှင် |
| الصبور | ခန္တီပါရမီနှင့်ပြည့်စုံတော်မူသောအရှင် |

**اعْمَل بِعلْمك ، تغْنمْ أيّها الرجل لا يَنْفَعُ العلمُ إنْ لمْ يَحْسُنْ العملُ**
**والعِلمُ زَيْنٌ وتَقْوى الله زينته والمتقون لهم في عِلْمهم شُغْلٌ**

هذا ما أردنا جمعه من الأحاديث المباركة والله أعلم بالصواب .

تم المجموع بحمد الله وعونه وحسن توفيقه ( وذلك في اليوم الثالث من شهر شوال سنة ١٤٣٦هـ ـ ولله الحمد والمنة . اللهم لا أحصي ثناء عليك كما أثنيت على نفسك ، وأسألك من فضلك العظيم أن تجعله خالصا لوجهك ، وسببا للفوز برضاك . وصلى الله على سيدنا محمد وعلى آله وأصحابه أجمعين .

تم بحمد الله

